ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၃ ရက်

အကြောင်းအရာ။ **သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန်ကိစ္စ**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ်၈၄/A ရှိ မြေဧရိယာ (၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ(၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည် ပြင်ဆင်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) အစီရင်ခံစာ အပေါ် စိစစ်ပေးပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန သို့ ၂၀၁၆ ခုနှစ် ဧပြီလ ၆ ရက်နေ့ ရက်စွဲပါစာဖြင့် ပေးပို့ခဲ့ပါသည်။ အလံ "၁"

၂။ ယခုအခါ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ Lighting Specialist Co., Ltd. မှ တင်ပြလာသော ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) အစီရင်ခံစာအပေါ် စိစစ်တွေ့ရှိချက်နှင့် သုံးသပ်အကြံပြုချက်များ ထည့် သွင်းရေးဆွဲရန် လိုအပ်ကြောင်း ၂၀၁၆ ခုနှစ် ဇူလိုင်လ ၂၈ ရက်နေ့ရက်စွဲပါစာဖြင့် သဘောထား ပြန်ကြားလာ ခြင်း အား **ပူးတွဲ** ဖော်ပြထားပါသည်။ အလံ "၂"

၃။ သို့ဖြစ်ပါ၍ Lighting Specialist Co., Ltd.မှ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားနှင့်အညီ ပြင်ဆင်ဆောင်ရွက်၍ တင်ပြရန် အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြ အပ်ပါ သည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | (signed) 3/8/16 | (signed) 3/8/16 | (signed) 3/8 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ သက်ဆိုင်ရာ ကုမ္ပဏီမှ IEE အစီရင်ခံစာ အပေါ် ပြင်ဆင် ဖြည့်စွက်ဆောင် ရွက်ရန် သက်ဆိုင်ရာဌာနနှင့် တိုက်ရိုက် ပေးပို့ဆောင်ရွက်ရန် အကြောင်း ကြားမည့်စာ အားတင်ပြ အပ်ပါသည်။

(signed) 3-8-16
(ဒေါ်…)

LSC Kalaw Ns INV-3





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၃

ဖုန်း ၀၁-၆၅၈၁၂၉


စာအမှတ်၊ မရက- ၄/မ-၁၅၀၁/၂၀၁၆( ၈၁၃ )

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၄ ရက်

အကြောင်းအရာ ။ **သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၆-၄-၂၀၁၆) ရက်စွဲပါစာ အမှတ်၊ရက-၄/မ-၁၅၀၁/၂၀၁၆(၅၅၄-ခ)

(၂) သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ (၂၈-၇-၂၀၁၆) ရက်စွဲပါ စာအမှတ် (သစ်တော)၃/၁၆(ဃ)/ (၁၀၅၀/ ၂၀၁၆)

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ်၈၄/A ရှိ မြေဧရိယာ (၃.၇၈၅)ဧကနှင့် (၂.၈၅) ဧက စုစုပေါင်း မြေဧရိယာ(၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည် ပြင်ဆင်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) အစီရင်ခံစာအပေါ် စိစစ်ပေးပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရည်ညွှန်း(၁)ပါစာဖြင့် ပေးပို့ခဲ့ပါသည်။

၂။ ယခုအခါ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ Lighting Specialist Co., Ltd. မှ တင်ပြလာသော ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) အစီရင်ခံစာ အပေါ် စိစစ်တွေ့ရှိချက်နှင့် သုံးသပ်အကြံပြုချက်များထည့်သွင်း ရေးဆွဲရန် လိုအပ်ကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားပြန်ကြားလာခြင်းအား **ပူးတွဲ** ဖော်ပြထားပါ သည်။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ဆောင်ရွက်၍ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တိုက်ရိုက်ပေးပို့ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

Lighting Specialist Co., Ltd.

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ/ မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် (သစ်တော) ၃/၁၆(ဃ)/( ၁၀၅၁/၂၀၁၆)
ရက်စွဲ ၂၀၁၆ ခုနှစ်၊ ဇူလိုင်လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ တင်ပြလာသည့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination -IEE)အစီရင်ခံစာ အပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆- ၄ -၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက - ၄/ မ-၁၅၀၁ / ၂၀၁၆ (၅၅၄-ခ)

Lighting Specialist Co., Ltd. မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ် ၈၄/A ရှိ စုစုပေါင်း မြေဧရိယာ (၆.၆၃၅) ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည် ပြင်ဆင်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်အတွက် ရည်ညွှန်းပါစာဖြင့် ရေးဆွဲတင်ပြလာသည့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination -IEE) အစီရင်ခံစာအပေါ် စိစစ်တွေ့ရှိချက်အရ ပူးတွဲပါ အချက်များဖြင့် ထပ်မံရေးဆွဲရန်လိုအပ်သဖြင့် IEE အစီရင်ခံစာအား ပြင်ဆင်ရေးသားပြီး ဤဝန်ကြီးဌာနသို့ ပြန်လည်တင်ပြရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

D:\DTDA\MIC (Comment of EIA, SIA, IEE, EMP)\Lighting Specialist Co.,Ltd\to MIC.doc1



(၉၁၈)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် (သစ်တော) ၃/၁၆(ဃ)/( ၁၀၅၁ /၂၀၁၆)
ရက်စွဲ ၂၀၁၆ ခုနှစ်၊ ဇူလိုင်လ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ တင်ပြလာသည့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination -IEE)အစီရင်ခံစာ အပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆- ၄ -၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက - ၄/ မ-၁၅၀၁ / ၂၀၁၆ (၅၅၄-ခ)

Lighting Specialist Co., Ltd. မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ် ၈၄/A ရှိ စုစုပေါင်း မြေဧရိယာ (၆.၆၃၅) ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည် ပြင်ဆင်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်အတွက် ရည်ညွှန်းပါစာဖြင့် ရေးဆွဲတင်ပြလာသည့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination -IEE) အစီရင်ခံစာအပေါ် စိစစ်တွေ့ရှိချက်အရ ပူးတွဲပါအချက်များဖြင့် ထပ်မံရေးဆွဲရန်လိုအပ်သဖြင့် IEE အစီရင်ခံစာအား ပြင်ဆင်ရေးသားပြီး ဤဝန်ကြီးဌာနသို့ ပြန်လည်တင်ပြရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

D:\DTDA\MIC (Comment of EIA, SIA, IEE, EMP)\Lighting Specialist Co.,Ltd\to MIC doc1

Lighting Specialists Co., Ltd. မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်နှင့်ပတ်သက်၍ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination -IEE) အစီရင်ခံစာအား စိစစ်၍ သဘောထားမှတ်ချက်တင်ပြခြင်း

| စဉ် | စိစစ်တွေ့ရှိချက်များ | သုံးသပ်အကြံပြုချက်များ |
|---|---|---|
| [illegible] | [illegible] | |
| (၁) | အစီရင်ခံစာတွင် စီမံကိန်းအဆိုပြုသူသည် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီရင်ခံစာပါအောက်ပါအချက်များထည့်သွင်းဖော်ပြထားခြင်းမရှိသည်ကို စိစစ်တွေ့ရှိရပါသည်။<br>(က) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းသည် တိကျခိုင်မာကြောင်းနှင့်ပြည့်စုံကြောင်း၊<br>(ခ) ဤလုပ်ထုံးလုပ်နည်းအပါအဝင် သက်ဆိုင်ရာဥပဒေများကို တိကျစွာလိုက်နာ၍ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းကို ဆောင်ရွက်ထားကြောင်း၊<br>(ဂ) စီမံကိန်းသည် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီရင်ခံစာပါကတိကဝတ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျှော့ချရေးလုပ်ငန်းများနှင့် အစီအစဉ်များကို အပြည့်အဝအစဉ် အမြဲလိုက်နာဆောင်ရွက်ရန်။ | ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် (၃၅) အရ အောက်ပါကတိကဝတ်များအား ထည့်သွင်းဖော်ပြရန် -<br>(က) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းသည် တိကျခိုင်မာကြောင်းနှင့်ပြည့်စုံကြောင်း၊<br>(ခ) ဤလုပ်ထုံးလုပ်နည်းအပါအဝင် သက်ဆိုင်ရာဥပဒေများကို တိကျစွာလိုက်နာ၍ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်းကို ဆောင်ရွက်ထားကြောင်း၊<br>(ဂ) စီမံကိန်းသည် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီရင်ခံစာပါကတိကဝတ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျှော့ချရေးလုပ်ငန်းများနှင့်အစီအစဉ်များကို အပြည့်အဝအစဉ်အမြဲလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ |

| | | |
|---|---|---|
| (ခ) | မူဝါဒ၊ ဥပဒေနှင့်အဖွဲ့အစည်းဆိုင်ရာမူဘောင် | |
| (၁) | စာမျက်နှာ ၁၉ မူဝါဒ၊ ဥပဒေနှင့်အဖွဲ့အစည်းဆိုင်ရာ မူဘောင်တွင် ဖော်ပြထားချက်များအား ပြည့်စုံစွာ ဖော်ပြထားခြင်းမရှိသည်ကို စိစစ်တွေ့ရှိရပါသည်။ | စီမံကိန်းနှင့်သက်ဆိုင်သော ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ နိုင်ငံတကာစံချိန်စံညွှန်းများအား ဖော်ပြရန်၊ |
| (၂) | စာမျက်နှာ ၂၀၊ ဇယား (၈) ဆူညံသံနှင့်ပတ်သက်ပြီး Construction Phase and Operation Phase တွင် ဖော်ပြထားသည့် စံနှုန်းများမှာ မည်သည့်စံနှုန်းအား အသုံးပြုထားသည်ကို ရှင်းလင်းစွာဖော်ပြမထားသည်ကို စိစစ်တွေ့ရှိရပါသည်။ | ဆူညံသံနှင့်ပတ်သက်ပြီး Construction Phase and Operation Phase အလိုက် ဖော်ပြမည့်စံနှုန်းများအား အမျိုးသားအဆင့် ပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ (National Environmental Quality (Emission) Guidelines နှင့်အခြားထုတ်ပြန်ထားသည့် နိုင်ငံတကာစံချိန်စံညွှန်းများအတိုင်း လိုက်နာဆောင်ရွက်ရန်၊ |
| (ဂ) | စီမံကိန်းအကြောင်းအရာဖော်ပြချက်နှင့် အခြား [illegible] ဆောင်ရွက်နိုင်သည့်စီမံကိန်း[illegible] | |
| (၁) | စာမျက်နှာ ၃၅ တွင် စီမံကိန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ထိခိုက်နိုင်မှုများအား လုပ်ငန်းဆောင်ရွက်မည့်အဆင့်အလိုက် ခွဲခြားဖော်ပြထားခြင်းမရှိသည်ကို စိစစ်တွေ့ရှိရပါသည်။ | စီမံကိန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ထိခိုက်နိုင်မှုများအား လုပ်ငန်းဆောင်ရွက်မည့်အဆင့်အလိုက် ခွဲခြားဖော်ပြရန်၊ |
| (ဃ) | ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် | |
| (၁) | စာမျက်နှာ ၁၄ Water and Waste Management Plan တွင် ရေဆိုးစွန့်ပစ်မှုအတွက် Spetic tank with chlorination well စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ် | Treatment ပြုလုပ်ပြီး ထွက်ရှိလာသောစွန့်ပစ်ရေများအား အမျိုးသားအဆင့်ပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ စွန့်ထုတ်ရန်နှင့် စောင့်ကြည့်စစ် |

| | | |
|---|---|---|
| | ကြောင်းဖော်ပြထားသော်လည်း ထွက်ရှိမည့်ပမာဏနှင့် မည်သည့်စံချိန်စံညွှန်းနှင့်အညီစွန့်ထုတ်မည်ဖြစ်ကြောင်း ဖော်ပြထားခြင်းမရှိသည်ကို စိစစ်တွေ့ရှိရပါသည်။ | ဆေးမည့်အစီအစဉ်အား ဖော်ပြရန်၊ |
| (၂) | စာမျက်နှာ ၁၆ တွင် စီမံကိန်းမှ ထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များအား compactor ပါဝင်သည့် Bin Center (စုပေါင်းအမှိုက်သိမ်းကန်) ဖြင့် စွန့်ပစ်မည်ဟုဖော်ပြထားသော်လည်း ထွက်ရှိမည့်ပမာဏနှင့် တာဝန်ယူစွန့်ပစ်မည့်အဖွဲ့အား ဖော်ပြထားခြင်းမရှိသည်ကို စိစစ်တွေ့ရှိရပါသည်။ | စီမံကိန်းမှထွက်ရှိလာသည့် စွန့်ပစ်အမှိုက်များအား စုပေါင်းအမှိုက်သိမ်းကန်သို့မစွန့်ပစ်မီ မည်သူနှင့်ဆက်သွယ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် Waste Management Plan တွင် စီမံကိန်းလုပ်ငန်းခွင်တစ်ခုချင်းစီအလိုက် ထွက်ရှိလာမည့် စွန့်ပစ်ပမာဏအားတွက်ချက်ဖော်ပြရန်၊ |
| (၃) | စာမျက်နှာ ၁၃ Noise Management Plan တွင် အသံဆူညံမှုနှင့်ပတ်သက်ပြီး Guidelines ကိုသာဖော်ပြထားပြီး အဆိုပြုစီမံကိန်းကြောင့် ဖြစ်ပေါ်လာမည့် ဆူညံသံနှင့်လက်ရှိပတ်ဝန်းကျင်ဆူညံသံအခြေအနေတို့အား ကောက်ယူသည့်နေရာ၊ အချိန် ဖော်ပြထားခြင်းမရှိကြောင်းကို စိစစ်တွေ့ရှိရ ပါသည်။ | အဆိုပြု စီမံကိန်းတွင် အသံဆူညံမှုနှင့်စပ်လျဉ်း၍ လက်ရှိပတ်ဝန်းကျင်အခြေအနေအား ကောက်ယူဖော်ပြရန်နှင့် အဆိုပြုစီမံကိန်းကြောင့် ဖြစ်ပေါ်လာနိုင်မည့်ဆူညံသံများအား အမျိုးသားအဆင့်ပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ ကိုက်ညီစေရေးအတွက် ဆောင်ရွက်မည့်အစီအမံများထည့်သွင်းဆောင်ရွက်ရန်၊ |
| (၄) | ပတ်ဝန်းကျင်ဆိုင်ရာ အခြေပြုအချက်အလက်များတင်ပြရာတွင် လေအရည်အသွေး၊ စွန့်ပစ်အရည်အသွေး၊ အသံဆူညံမှု၊ တုန်ခါမှု၊ ရေအရည်အသွေး၊ traffic တို့အား ဖော်ပြထားခြင်းမရှိသည်ကို စိစစ်တွေ့ရှိပါသည်။ | ပတ်ဝန်းကျင်ဆိုင်ရာအခြေပြုအချက်အလက်များတွင် အောက်ပါအချက်များဖော်ပြရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိပါသည်-<br>– သက်ဆိုင်ရာ ရူပဆိုင်ရာ၊ ဇီဝဆိုင်ရာ၊ လူမှုရေး၊ လူမှုစီးပွားရေးနှင့် ယဉ်ကျေးမှုဆိုင်ရာအနေအထားများ၏ မြေပုံများအပါအဝင် စီမံကိန်းအနီးပတ်ဝန်းကျင်ရှိ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ အခြေအနေများ ဖော်ပြချက်တို့အား အသေးစိတ် |

| | | |
|---|---|---|
| | | ဖော်ပြရန်၊ |
| (၅) | Environmental Management Plan ကို အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် လျာထားရန်ပုံငွေအားဖော်ပြထားခြင်းမရှိသည်ကိုစိစစ်တွေ့ရှိရပါသည်။ | Environmental Management Plan ကို အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် လျာထားရန်ပုံငွေနှင့် အသုံးစရိတ်အားဖော်ပြရန်၊ |
| [illegible] | သတင်းအချက်အလက်ထုတ်ဖော်ခြင်းနှင့်အများပြည်သူနှင့်တိုင်ပင်ဆွေးနွေးခြင်း | |
| (၁) | စာမျက်နှာ ၄၁ အများပြည်သူနှင့်တိုင်ပင် ဆွေးနွေးခြင်းနှင့်စပ်လျဉ်း၍ ပြည်နယ်အစိုးရအဖွဲ့(ရှမ်းပြည်နယ်)၊ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့မှ သဘောထားမှတ်ချက်များကိုသာ ဖော်ပြထားပြီး အကောင်အထည်ဖော်ဆောင်ရွက်မည့် စီမံကိန်းအနီးပတ်ဝန်းကျင်ရှိ ပြည်သူလူထုများ၊ အစိုးရအဖွဲ့အစည်းများ၊ အစိုးရမဟုတ်သောအဖွဲ့အစည်းများတွေ့ဆုံဆွေးနွေးမှု၊ စီမံကိန်းအကြောင်းအရာရှင်းလင်းတင်ပြမှုနှင့် စီမံကိန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ထိခိုက်နိုင်မှုများအား ရှင်းလင်းဖော်ပြ၍ လျော့ချမည့်နည်းလမ်းများနှင့် အဆိုပါအဖွဲ့အစည်းများ၏သဘောထားမှတ်ချက်များ ရယူပြီး တာဝန်ယူဆောင်ရွက်မှုအား ထည့်သွင်းဖော်ပြထားခြင်း မရှိသည်ကို စိစစ်တွေ့ရှိရပါသည်။ | စီမံကိန်းအနီးပတ်ဝန်းကျင်ရှိပြည်သူလူထုများ၊ အစိုးရမဟုတ်သော အဖွဲ့အစည်းများ တွေ့ဆုံဆွေးနွေးမှု၊ စီမံကိန်းအကြောင်းအရာ ရှင်းလင်းတင်ပြမှုနှင့် စီမံကိန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ထိခိုက်နိုင်မှုများအား ရှင်းလင်းဖော်ပြ၍ လျော့ချမည့်နည်းလမ်းများနှင့် အဆိုပါအဖွဲ့အစည်းများ၏ သဘောထားမှတ်ချက်များကို ရယူပြီး တာဝန်ယူဆောင်ရွက်မှုတို့အားထည့်သွင်းဖော်ပြရန်၊ |

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဧပြီလ ၇ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီဆောင်ရွက်ရန် အကြောင်းကြားခြင်း ကိစ္စ**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ကလောမြို့နယ်၊ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧက တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည် မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန်ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ သဘောထား မှတ်ချက် တောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံတော် ဗဟိုဘဏ် မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားလာပါသည်-

(က) ကုမ္ပဏီ၏ Debt to Equity Ratio မှာ အလွန်ကွာဟလျက်ရှိသောကြောင့် ငွေချေးသူအနေဖြင့် ရင်းချေးငွေ ပြန်လည်ပေးဆပ်နိုင်ရေးအတွက် ဝင်ငွေရရှိရန် ဆောင်ရွက်မည့် အစီအစဉ်နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြရန် ဖော်ပြခဲ့သော်လည်း ယခု တင်ပြလာရာတွင် ဝင်ငွေရရှိရန် ဆောင်ရွက်မည့်အစီအစဉ်အား တင်ပြခြင်းမရှိဘဲ ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်ကိုသာ တင်ပြထားပါ ကြောင်း။

(ခ) ထို့အပြင် Galaluz Pte Ltd နှင့် ချုပ်ဆိုမည့် Contract Agreement တွင် ချေးငွေ အတိုးနှုန်းအား 5 % p.a ဟု ဖော်ပြခဲ့ပြီး ယခု တင်ပြလာသည့် ချေးငွေပြန်လည် ပေးဆက်မှု ဇယားတွင် ဖော်ပြထားရာ၌ စုစုပေါင်း ချေးငွေကျပ် ၁၄.၅ ဘီလီယံ အနက် ကျပ် ၁၁.၅ ဘီလီယံ အား Galaluz Pte Ltd သို့ အတိုးနှုန်း 5 % p.a ဖြင့် လည်း ကောင်း၊ ကျပ် ၃.၀ ဘီလီယံအား Bank Loan အဖြစ် အတိုးနှုန်း 12 % p.a ဖြင့်လည်းကောင်းပေးဆပ်ရန် ဖော်ပြထားသည်ကို တွေ့ရှိရပါကြောင်း။

(ဂ) Lighting Specialist Co., Ltd. က ချေးငွေ ပြန်လည်ပေးဆပ်မည့် အစီအစဉ်ကိုသာ တင်ပြထားပါကြောင်း၊ ငွေလဲလှယ်နှုန်း အမျိုးမျိုးပြောင်းလဲခြင်းကြောင့် ဖြစ်ပေါ်လာနိုင်မည့် Situation Analysis ကိုပါ ထည့်၍ တွက်ချက်တင်ပြသင့်ပါကြောင်း။

(ဃ) ထောက်ပံ့မည့်ပစ္စည်းများ၏ တန်ဖိုးများကိုတင်ပြထားသော်လည်း အဆိုပါပစ္စည်းတန်ဖိုးများမှန်ကန်သင့်လျော်ကြောင်း အထောက်အထားကို ယုံကြည်စိတ်ချရမည့် Third Party အဖွဲ့အစည်းတစ်ခုထံမှ ရယူတင်ပြပေးသင့်ပါကြောင်း ။

အထွေထွေအရပ်ရပ်-၁၆

ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ် ၏ သဘောထားအား ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန နှင့် ကုမ္ပဏီသို့ အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေး ထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | [signature] 7/4/16 | [signature] 7/4/16 | [signature] 7/4 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ ဗဟိုဘဏ်၏ သဘောထားအား ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနနှင့် ကုမ္ပဏီသို့ အကြောင်းကြားမည့်စာအား လက်မှတ်ရေးထိုးပေးပါရန် တင်ပြအပ်ပါသည်။

[signature] 7.4.16

([illegible])

ညွှန်ကြားရေးမှူး

၅။ ကုမ္ပဏီသို့ ဗဟိုဘဏ်၏ သဘောထား [illegible] စာကို [illegible] လက်မှတ်ရေးထိုး [illegible] ပါရန် တင်ပြအပ်ပါသည်။

[signature] 7/4/16 ([illegible])

[illegible]

6. [illegible]

[signature] 7/4

[illegible] [signature]

[illegible]




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၀၁/၂၀၁၆( ၅၆၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဧပြီလ ၈ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်ရန် အကြောင်းကြားခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၁၆-၃-၂၀၁၆) ရက်စွဲပါ စာအမှတ် ရက-၄/မ-၁၅၀၁/၂၀၁၆(၄၁၂)

(၂) မြန်မာနိုင်ငံတော် ဗဟိုဘဏ် ၏ (၃၀-၃-၂၀၁၆) ရက်စွဲပါ စာအမှတ် အက်ဖ်အီး-၃၉/၅၅

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ စုစုပေါင်း မြေဧရိယာ(၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း၏ ချေးငွေ ရယူခြင်းနှင့် စပ်လျဉ်းသည့် အထောက်အထားနှင့် ပတ်သက်၍ ကုမ္ပဏီမှ တင်ပြခြင်းအား မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ ရည်ညွှန်း(၁)ပါစာဖြင့်သဘောထားမှတ်ချက်တောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံတော်ဗဟိုဘဏ်သည် ကုမ္ပဏီမှ တင်ပြလာသည့် ချေးငွေရယူခြင်း နှင့် စပ်လျဉ်း၍ ရည်ညွှန်း(၂)ပါစာဖြင့် အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားလာပါသည်-

(က) ကုမ္ပဏီ၏ Debt to Equity Ratio မှာ အလွန်ကွာဟလျက်ရှိသောကြောင့် ငွေချေးသူ အနေဖြင့် ၎င်းချေးငွေ ပြန်လည်ပေးဆပ်နိုင်ရေးအတွက် ဝင်ငွေရရှိရန်ဆောင်ရွက်မည့် အစီအစဉ်နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြရန် ဖော်ပြခဲ့သော်လည်း ယခု တင်ပြလာရာတွင် ဝင်ငွေရရှိရန် ဆောင်ရွက်မည့် အစီအစဉ်အား တင်ပြခြင်း မရှိဘဲ ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်ကိုသာ တင်ပြထားပါကြောင်း။

(ခ) ထို့အပြင် Galaluz Pte Ltd နှင့် ချုပ်ဆိုမည့် Contract Agreement တွင် ချေးငွေ အတိုးနှုန်းအား 5 % p.a ဟု ဖော်ပြခဲ့ပြီး ယခု တင်ပြလာသည့် ချေးငွေ ပြန်လည် ပေးဆပ်မှု ဇယားတွင် ဖော်ပြထားရာ၌ စုစုပေါင်း ချေးငွေကျပ် ၁၄.၅ ဘီလီယံ အနက် ကျပ် ၁၁.၅ ဘီလီယံ အား Galaluz Pte Ltd သို့ အတိုးနှုန်း 5 % p.a ဖြင့် လည်း

ကောင်း၊ ကျပ် ၃.၀ ဘီလီယံအား Bank Loan အဖြစ် အတိုးနှုန်း 12 % p.a ဖြင့် လည်းကောင်း ပေးဆပ်ရန် ဖော်ပြထားသည်ကို တွေ့ရှိရပါကြောင်း။

(ဂ) Lighting Specialist Co., Ltd. က ချေးငွေ ပြန်လည်ပေးဆပ်မည့် အစီအစဥ်ကိုသာ တင်ပြထားပါကြောင်း၊ ငွေလဲလှယ်နှုန်း အမျိုးမျိုးပြောင်းလဲခြင်းကြောင့် ဖြစ်ပေါ်လာနိုင်မည့် Situation Analysis ကိုပါ ထည့်၍ တွက်ချက်တင်ပြသင့်ပါကြောင်း။

(ဃ) ထောက်ပံ့မည့် ပစ္စည်းများ၏ တန်ဖိုးများကို တင်ပြထားသော်လည်း အဆိုပါ ပစ္စည်းတန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထားကို ယုံကြည်စိတ်ချရမည့် Third Party အဖွဲ့အစည်းတစ်ခုထံမှ ရယူတင်ပြပေးသင့်ပါကြောင်း ။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်သွားရန်နှင့် လိုက်နာမည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

(အောင်နိုင်ဦး)
ညွှန်ကြားရေးမှူးချုပ်

Lighting Specialist Co., Ltd.

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရုံးလက်ခံ / မျှောစာတွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံတော်ဗဟိုဘဏ်

413.775
8/4

စာအမှတ်၊ အက်ဖ်အီး-၃၉/ ၅၅
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၃ ၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Lighting Specialist Co., Ltd ၏ ပြည်ပချေးငွေရယူရန်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က Valuation Assessment ပြန်လည်တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်း**

P.458
8.4.16

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ (၁၀.၃.၂၀၁၆) ရက်စွဲပါစာအမှတ်၊ အက်ဖ်အီး-၃၉/ ၅၁

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆.၃.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၀၁/၂၀၁၆(၄၁၂)

၁။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင် ကလောမြို့နယ်ရှိ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ဆောင်ရန် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် (Lighting Specialist Co., Ltd) က စင်ကာပူနိုင်ငံရှိ Galaluz Pte Ltd ထံမှ ကျပ်(၁၄.၅) ဘီလီယံ ချေးယူလိုခြင်းအတွက် ရည်ညွှန်း(၂)ပါစာဖြင့် Valuation Assessment ပြန်လည်တင်ပြလာခြင်းအပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုမ္ပဏီ၏ Debt to Equity Ratio မှာ အလွန်ကွာဟလျက်ရှိသောကြောင့် ငွေချေးသူ အနေဖြင့် ၎င်းချေးငွေ ပြန်လည်ပေးဆပ်နိုင်ရေးအတွက် ဝင်ငွေရရှိရန် ဆောင်ရွက်မည့်အစီအစဉ်နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြရန် ရည်ညွှန်း(၁)ပါစာတွင် ဖော်ပြခဲ့သော်လည်း ယခု ပြန်လည်တင်ပြလာရာတွင် ဝင်ငွေရရှိရန် ဆောင်ရွက်မည့်အစီအစဉ်အား တင်ပြခြင်း မရှိဘဲ ချေးငွေပြန်လည်ပေးဆပ်မည့်အစီအစဉ်ကိုသာ တင်ပြထားပါသည်။

(ခ) ထို့အပြင် Galaluz Pte Ltd နှင့် ချုပ်ဆိုမည့် Contract Agreement တွင် ချေးငွေအတိုးနှုန်းအား 5% p.a ဟုသာ ဖော်ပြခဲ့ပြီး ယခုတင်ပြလာသည့် ချေးငွေပြန်လည်ပေးဆပ်မှုဇယားတွင် ဖော်ပြထားရာ၌ စုစုပေါင်း ချေးငွေ ကျပ် ၁၄.၅ ဘီလီယံ အနက် ကျပ် ၁၁.၅ ဘီလီယံအား Galaluz Pte Ltd သို့ အတိုးနှုန်း 5%p.a ဖြင့် လည်းကောင်း၊ ကျပ် ၃.၀ ဘီလီယံအား Bank Loan အဖြစ် အတိုးနှုန်း 12% p.a ဖြင့် လည်းကောင်း ပေးဆပ်ရန် ဖော်ပြထားသည်ကို တွေ့ရပါသည်။

(ဂ) Lighting Specialist Co., Ltd က ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်ကိုသာ တင်ပြထားပါသည်။ ငွေလဲလှယ်နှုန်းအမျိုးမျိုး ပြောင်းလဲခြင်းကြောင့် ဖြစ်ပေါ်လာနိုင်မည့် Situation Analysis ကိုပါ ထည့်၍ တွက်ချက်တင်ပြသင့်ပါသည်။

(ဃ) ထောက်ပံ့မည့်ပစ္စည်းများ၏ တန်ဖိုးများကို တင်ပြထားသော်လည်း အဆိုပါ ပစ္စည်းတန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထားကို ယုံကြည်စိတ်ချရမည့် Third Party အဖွဲ့အစည်းတစ်ခုထံမှ ရယူတင်ပြပေးသင့်ပါသည်။

၂။ သို့ပါ၍ Lighting Specialist Co., Ltd အနေဖြင့် အထက်အပိုဒ်(၁)ပါ လိုအပ်ချက်များအား ပြန်လည်တင်ပြရန် လိုအပ်ပါကြောင်း မှတ်ချက်ပြု ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
( ဆက်အောင်၊ ဒုတိယဥက္ကဋ္ဌ )

မိတ္တူကို

ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယဥက္ကဋ္ဌ(၂)၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

Lighting Specialist Co., Ltd

ရုံးလက်ခံ

မျှောစာတွဲ




# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : LIGHTING SPECIALIST CO., LTD

Presented by : U Kyaw Moe Naing (MD)

| | The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | U Kyaw Moe Naing | Myanmar 12/AhLaNa (Naing) 001016 | Room.203, Yankin Center YCDC, Bayasan Road, Yankin Township, Yangon. | Merchant | Managing Director |
| 2. | Daw Cho Cho Mar | Myanmar 12/OuKaTa (Naing) 014431 | No.1054-Ka, Pathar Wadi (10) Street, Ward No.13, South Okkalapa Township, Yangon. | Merchant | Director |
| 3. | Daw Cho Lwin Oo | Myanmar 12/LaMaNa (Naing) 005364 | Room.203, Yankin Center YCDC, Bayasan Road, Yankin Township, Yangon. | Merchant | Director |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ............................ and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry.

Signature ..........................................

Designation ..........................................

Dated this ..12.2.2012..........

Form(26)

the front page, and the registration of the return should be effected within one month of the first date.

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

DG 28 27/3
DJ 31 30/3 NG

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၈ ရက်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် အတွက် ခွင့်ပြုမိန့်ထုတ်ပေးရန်ကိစ္စ**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေဧရိယာ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွား လာရေးလုပ်ငန်းဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ် ၁၈ ရက်နေ့တွင်ကျင်းပသောကော်မရှင်၏(၁၀/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ "ခွင့်ပြုမိန့်ထုတ်ပေးရန်" ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံသူ သို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ(စာချော)**တို့အား ဥက္ကဋ္ဌ မှ လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

ဥက္ကဋ္ဌ
၃။




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်



ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၆၅ / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်မိုးနိုင်

(ခ) **အဘ အမည်** ဦးအောင်နိုင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/အလန(နိုင်) ဂ၀၁ဂ၁၆

(ဃ) **နေရပ်လိပ်စာ** အမှတ်- ၂၀၃၊ ရန်ကင်းစင်တာ၊ YCDC၊ ဆရာစံလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** Lighting Specialist Company Limited ( မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ကျောက်တိုင်ရပ်၊ ၃ ရပ်ကွက်၊ အကွက် အမှတ် ၄၄၊ ဦးပိုင်အမှတ် ၂၀ ရှိ မြေဧရိယာ(၆.၆၃၅)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၁၃၀၄.၈၁ သန်း ( အမေရိကန်ဒေါ်လာ ၁၃.၄၈၅ သန်း အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း တစ်ထောင့် သုံးရာ လေးသန်း နှင့် ရှစ်သိန်း တစ် သောင်း ခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ် ၆ လ

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်



# ကန့်သတ်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ ၇၅ /၂၀၁၆ (မနသ)
## ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

၁။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန ပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် (၄၄)၊ မြေအမှတ်၈၄/အေ၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေဧရိယာ(၃.၇၈၅)ဧကနှင့် (၂.၈၅) ဧက စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧက တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏( ၁၀ /၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ "ခွင့်ပြုမိန့် ထုတ်ပေးရန်"ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင် ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၁၆၅/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါလုပ်ငန်း

အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ စက်ပစ္စည်း၊ စက်ကိရိယာ၊အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့်

**ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။**

၅။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤ အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးချမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနနှင့် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူ စာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး၊ ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧက နှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့် (၁၁-၁၂-၂၀၁၄) ရက်နေ့ မှစ၍ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ(၁၀)နှစ် သက်တမ်း (၂)ကြိမ် ဖြစ်သည်။ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ် သည်။ ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧကနှင့် အဆောက်အဦအား ငှားရမ်းမှု သက်တမ်းမှာလည်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ခွင့်ပြုချက်ရရှိပြီးသည့် အချိန်မှ စတင်၍ ကနဦး (၅၀)နှစ် ဖြစ်သည်။

၉။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် နှစ်စဉ် မြေငှားရမ်းခအဖြစ် စုစုပေါင်း မြေ ဧရိယာ ၆.၆၃၅ ဧက အတွက် ကျပ် ၁၆၀ သန်း ကို ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနသို့ ပေးဆောင်ရမည်။ နှစ်စဉ် မြေငှားရမ်းခကို တစ်နှစ်လျှင် (၄)ကြိမ်ခွဲ၍ ပေးသွင်းရမည်။ (၃)လ အတွက် ကျသင့်ငွေ ကျပ် သန်း ၄၀ ကို (၃)လ ပြည့်ပြီး လဆန်း(၇)ရက်အတွင်း နေပြည်တော် မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်) ရန်ကုန်မြို့ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန(ရုံးချုပ်) ဘဏ်စာရင်းသို့ ပေးသွင်းရမည်။ ဘဏ္ဍာနှစ် တစ်နှစ်၏ နောက်ဆုံးဖြစ်သော မတ်လအတွက် ငှားရမ်းခအား မတ်လ(၂၅)ရက်နေ့ မတိုင်မီ ကြိုတင်ပေးသွင်းရမည်။

၁၀။ မြေငှားရမ်းခကို (၄)နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်။ အကယ်၍ ငှားရမ်းခ ထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်သည့် နှုန်းသည် မူလ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်ရမည်။

၁၁။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြင့် ပြန်လည် မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့် တည်ဆောက်ရေးကာလမှာ (၂)နှစ် နှင့် (၆) လ ဖြစ်သည်။

၁၂။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် တည်ဆောက်ရေးကာလ (၂)နှစ် နှင့် (၆) လ အတွင်း ရရှိသော ဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန် ကို ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးဆောင်ရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနနှင့် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်)တို့ ချုပ်ဆိုမည့် ကလောဟိုတယ်မြေဧရိယာ(၆.၆၃၅) ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ် ခေါင်းခွန်များ တစ်လအတွင်း ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင်စီ ကို ဤ ကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၄။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် ကျပ် သန်း ၅၀ ကို နေပြည်တော် မြန်မာ့စီးပွားရေး ဘဏ်(သို့မဟုတ်) ရန်ကုန်မြို့၊ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန(ရုံးချုပ်)ဘဏ်စာရင်းသို့ အငှားချထားသူအား တစ်လုံးတစ်ခဲတည်း အပြီးပေးသွင်း ပြီးမှသာ စာချုပ် ချုပ်ဆိုမည်ဖြစ်သည်။

၁၅။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက် ရမည်။

၁၆။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည်မဖော် မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၁၇။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်

နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက် တွင် တင်ပြထား သည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၈။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ် ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့်အတိုင်း စနစ်တကျဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

၁၉။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၂၀။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်) လ အတွင်း ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၂၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၂။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန/ အဖွဲ့အစည်းများ မှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၃။ အဆို ပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့်မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်းသို့မဟုတ်

တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကိုတစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာ ကစစ်ဆေးတွေ့ရှိလျှင် လိုအပ်သလိုအရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍(တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကေ-၄ /မ-၁၅၀၁/၂၀၁၆( ၄၅၀ - ၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

၇

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ တောင်ကြီးမြို့
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန
ဥက္ကဌ၊ မြန်မာ့ခရီးသွားလုပ်ငန်းအဖွဲ့ချုပ်
မန်နေဂျင်းဒါရိုက်တာ၊ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက် )

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

M3-567
6/4

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဧပြီလ ၅ ရက်

အကြောင်းအရာ။ Lighting Specialist Co., Ltd. မှ တင်ပြလာသည့် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာပေးပို့ခြင်းကိစ္စ

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင် ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေခွဲအမှတ်၈၄/A ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ(၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည် ပြင်ဆင်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာ ခြင်းအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ သဘောထား ပြန်ကြားချက်အား Lighting Specialist Co., Ltd. သို့ ၂၃-၁၂-၂၀၁၅ ရက်စွဲပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။ အလံ "၁" အလံ "၂"

၂။ ယခုအခါ Lighting Specialist Co., Ltd. မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ တင်ပြရန်လိုအပ်သည့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာအား Kaung Kyaw Say Co., Ltd. မှ ပြုစုပြီးဖြစ်ပါ၍ ၂၃-၃-၂၀၁၆ ရက်စွဲပါစာဖြင့် ပေးပို့လာပါသည်။ အလံ "၃"

၃။ သို့ဖြစ်ပါ၍ Lighting Specialist Co., Ltd. မှ ပေးပို့တင်ပြလာသည့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာအား သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ပေးပို့မည့် **စာချော**တွင် လက်မှတ်ရေး ထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါ သည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | 5/4/16 | 5/4/16 | 5/4 |
| အမည် | (စိုးသီဟ) | (ဝင်းမိုမိုအေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ [illegible] IEE နှင့် EMP အစီရင်ခံစာ အား [illegible]
[illegible] ပေးပို့ရေး စာအား တင်ပြအပ်ပါသည်။

5/4/16
([illegible])

၁၁၄ 25/11/3

LSC LIGHTING SPECIALIST CO LTD
3, Kanbe Road, Yankin Township
Yangon, Myanmar 11081
T +95 (0) 1 - 578930 / 577740
665068 / 657181
F +95 (0) 1 - 665345
E : myintzu@lscmyanmar.com

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက်စွဲ။ ။ ၁၀ ရက် ၊ မတ် လ ၊ ၂၀၁၆ ခုနှစ်

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ ပြန်လည် တင်ပြခြင်း။

ရည်ညွှန်းချက်။ ။(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃-၁၂-၂၀၁၅) ရက်စွဲပါ စာအမှတ် ရက-၄ /မ-၁၅၀၁/၂၀၁၅ (၁၀၄၂)။

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးရုံး၏ (၁၇-၁၂-၂၀၁၅) ရက်စွဲပါ စာအမှတ် ၃(၂)/၁၆(ဃ)(၁)/(၃၆၇၅ /၂၀၁၅)

၁။ အထက်အကြောင်းရာပါကိစ္စနှင့် ပတ်သက်၍ Lighting Specialist Co.,Ltd မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ် ၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရှိ မြေ (၃.၇၈၅) ဧက နှင့် (၂.၈၅)ဧက စုစုပေါင်းမြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြထားခြင်းအပေါ်တွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ရည်ညွှန်းပါစာများဖြင့် လက်ခံရရှိခဲ့ပါသည်။

၂။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအတိုင်း IEE အစီရင်ခံစာ နှင့် EMP အစီအစဉ်များကို ပူးတွဲပါဖြင့် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

10/03/2016

ဦးမင်းမော်ခိုင်

Project Engineer

Lighting Specialist Co.,Ltd

မိတ္တူကို-

- ရုံးလက်ခံ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း ၀၁- ၆၅၈၁၂၉
ဖက်(စ်) ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက-၄/မ-၁၅၀၀/၂၀၁၆( ၅၅၄-၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဧပြီလ ၄ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတ နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ တင်ပြလာသည့် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ (၁) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန ၏ (၁၇-၁၂-၂၀၁၅)ရက်စွဲပါစာအမှတ်၃(၂)/၁၆(ဃ)(၁)/(၃၆၇၅/၂၀၁၅)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၃-၁၂-၂၀၁၅) ရက်စွဲပါစာ အမှတ်၊ ရက-၄/မ-၁၅၀၀/၂၀၁၅(၁၀၄၂)

(၃) Lighting Specialist Co., Ltd. ၏ (၁၀-၃-၂၀၁၆)ရက်စွဲပါ တင်ပြစာ

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ်၈၄/A ရှိ စုစုပေါင်း မြေဧရိယာ(၆.၆၁၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ် အား အဆင့်မြှင့် ပြန်လည် ပြင်ဆင်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းအပေါ် သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထား ပြန်ကြားလာပြီး သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်ရမည့် အချက်များအား ရည်ညွှန်း(၂)ပါစာဖြင့် ကုမ္ပဏီသို့ အကြောင်းကြားခဲ့ပါသည်။

၂။ ယခုအခါ Lighting Specialist Co., Ltd. မှ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ရေးဆွဲထားသည့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာအား ကောင်းကျော်စေ အင်ဂျင်နီယာလုပ်ငန်း ကုမ္ပဏီ လီမိတက် မှ ပြုစုပြီးဖြစ်ပါ၍ ရည်ညွှန်း(၃)ပါစာဖြင့် ပေးပို့လာပါသည်။

၃။ သို့ဖြစ်ပါ၍ Lighting Specialist Co., Ltd. မှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ရေးဆွဲထားသည့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာအား လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

(အောင်နိုင်ဦး)
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

Lighting Specialist Co., Ltd.

ရုံးလက်ခံ/ မျှောစာတွဲ

DDG 160/14/3

25 43/15/3/16

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီဆောင်ရွက်ရန် အကြောင်းကြားခြင်း ကိစ္စ**

၁။ Lighting Specialist Co., Ltd. မှ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ မြေအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား မြန်မာနိုင်ငံတော် ဗဟိုဘဏ် သို့ သဘောထား မှတ်ချက် တောင်းခံခဲ့ပြီး ယင်းသဘောထားအရ ကုမ္ပဏီသို့ လိုအပ်ချက်များ ဖြည့်ဆည်းတင်ပြရန် (၅-၁-၂၀၁၆) ရက်စွဲပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။ အလ"၁"

၂။ ကုမ္ပဏီမှ လိုအပ်ချက်များ ဖြည့်ဆည်းပြီး ထပ်မံပေးပို့လာခြင်း အပေါ် မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့(၂၂-၂-၂၀၁၆)ရက်စွဲပါစာဖြင့် သဘောထားမှတ်ချက်ထပ်မံတောင်းခံခဲ့ပါသည်။ အလ"၂"

၃။ မြန်မာနိုင်ငံတော် ဗဟိုဘဏ် မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအချက်များ အတိုင်း လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားလာပါသည်- အလ"၃"

(က) ကုမ္ပဏီ၏ Debt to Equity Ratio မှာ အလွန်ကွာ (ဟာ) လျက်ရှိသောကြောင့် ငွေချေးသူ အနေဖြင့် ၎င်းချေးငွေ ပြန်လည်ပေးဆပ်နိုင်ရေးအတွက် ဝင်ငွေရရှိရန် ဆောင်ရွက်မည့်အစီအစဉ်နှင့် ချေးငွေပြန်လည်ပေးဆပ်မည့်အစီအစဉ်အားတင်ပြရန် လိုအပ်ပါ ကြောင်း။

(ခ) ရယူမည့်ချေးငွေသည် Loan-in-kind (Supplier's Credit) ဖြစ်သောကြောင့် ထောက်ပံ့မည့် ပစ္စည်းများ၏တန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထား (Valuation Assessment)အား တင်ပြသွားရန် လိုအပ်ပါကြောင်း။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ် ၏ သဘောထားအား ဟိုတယ်နှင့် ခရီးသွား လာရေး လုပ်ငန်းဝန်ကြီးဌာန နှင့် ကုမ္ပဏီသို့ အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေး ထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | 11/3/16 | 11/3/16 | |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၅။ ဗဟိုဘဏ်၏ သဘောထားမှတ်ချက်ကို သက်ဆိုင်ရာဌာနနှင့် ကုမ္ပဏီသို့ အကြောင်းကြားမည့် စာအား တင်ပြအပ်ပါသည်။

11/3/16
(အောင်ကြော်ဦး)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉


စာအမှတ်၊ ရက- ၄/မ-၁၅၀၁/၂၀၁၆( ၄၀၂ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၁၅ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်ရန် အကြောင်းကြားခြင်း ကိစ္စ**

ရည်ညွှန်းချက် ။
(၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၅-၁-၂၀၁၆) ရက်စွဲပါ စာအမှတ် ရက-၄/မ-၁၅၀၁/၂၀၁၆(၀၀၇)
(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂-၂-၂၀၁၆) ရက်စွဲပါစာ အမှတ် ရက-၄/မ-၁၅၀၁/၂၀၁၆(၂၇၁)
(၃) မြန်မာနိုင်ငံတော် ဗဟိုဘဏ် ၏ (၁၀-၃-၂၀၁၆) ရက်စွဲပါစာ အမှတ် အက်ဖ်အီး-၃၉/၅၁

၁။ Lighting Specialist Co., Ltd. မှ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ မြေအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ သဘောထား မှတ်ချက် တောင်းခံခဲ့ပြီး ယင်းသဘောထားအရ ကုမ္ပဏီသို့ လိုအပ်ချက်များ ပြင်ဆင်တင်ပြရန် ရည်ညွှန်း(၁) ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်ပြီးထပ်မံပေးပို့လာခြင်းအပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားမှတ်ချက် ထပ်မံတောင်းခံခဲ့ရာ မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ ရည်ညွှန်း(၃)ပါစာဖြင့် အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် သဘောထား ပြန်ကြားလာပါသည်-

(က) ကုမ္ပဏီ၏ Debt to Equity Ratio မှာ အလွန်ကွာဟလျက်ရှိသောကြောင့် ငွေချေးသူ အနေဖြင့် ငင်းချေးငွေ ပြန်လည်ပေးဆပ်နိုင်ရေးအတွက် ဝင်ငွေရရှိရန် ဆောင်ရွက်

မည့် အစီအစဉ်နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြရန် လိုအပ်ပါကြောင်း။

(ခ) ရယူမည့် ချေးငွေသည် Loan-in-kind (Supplier's Credit) ဖြစ်သော ကြောင့် ထောက်ပံ့မည့် ပစ္စည်းများ၏တန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထား (Valuation Assessment)အား တင်ပြသွားရန် လိုအပ်ပါကြောင်း။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ ညွှန်ကြားချက်များအတိုင်း လိုက်နာ ဆောင်ရွက်သွားရန်နှင့် လိုက်နာမည့် အစီအစဉ်များအား ကော်မရှင်သို့ တင်ပြရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Lighting Specialist Co., Ltd.

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရုံးလက်ခံ / မျှော စာတွဲ

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၈ ရက်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည်မွမ်းမံပြင်ဆင်ခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်အတွက်ခွင့်ပြုမိန့်ထုတ်ပေးရန်ကိစ္စ**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A ရှိ မြေဧရိယာ (၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ(၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည် ပြင်ဆင် မွမ်းမံခြင်း နှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံ သူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၁၀/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ "ခွင့်ပြုမိန့်ထုတ်ပေးရန်" ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A ရှိ မြေဧရိယာ (၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ(၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည်ပြင်ဆင်မွမ်းမံခြင်းနှင့်ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံသူ သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ(မူကြမ်း) တို့အား အတည်ပြုပေးပါရန် ပြုစုတင်ပြ အပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | 18/3/16 | 18/3/16 | 19/3 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ ဦးစီးဌာနမှ ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ မူကြမ်းအား စစ်ဆေး၍ တင်ပြအပ်ပါသည်။

21/3/16

ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်မိုးနိုင်

(ခ) **အဘ အမည်** ဦးအောင်နိုင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/အလန(နိုင်) ၀၀၁၀၁၆

(ဃ) **နေရပ်လိပ်စာ** အမှတ်- ၂၀၃၊ ရန်ကင်းစင်တာ၊ YCDC၊ ဆရာစံလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** Lighting Specialist Company Limited ( မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ~~B.O.T စနစ်ဖြင့် ငှားရမ်း၍~~ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုး တည်ဆောက်၍ နိုင်ငံ တကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနပိုင်၊ ဦးပိုင်အမှတ် ၂၀၊ အကွက် အမှတ် ၄၄၊ မြေအမှတ် ၈၄/A၊ ၃ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ကလောမြို့နယ်၊ တောင်ကြီး ခရိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)ရှိ မြေဧရိယာ(၃.၇၈၅)ဧက နှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၁၃၀၄.၈၁ သန်း ( အမေရိကန်ဒေါ်လာ ၁၃.၄၈၅ သန်း အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း တစ်ထောင့် သုံးရာ့ လေးသန်း နှင့် ရှစ်သိန်း တစ် သောင်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ် ၆ လ

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၆ (မနသ)
## ၂၀၁၆ ခုနှစ် မတ်လ ရက်

၁။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန ပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် (၄၄)၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေဧရိယာ(၃.၇၈၅)ဧကနှင့် (၂.၈၅) ဧက စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧက တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံ တကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏( ၁၀ /၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ "ခွင့်ပြုမိန့် ထုတ်ပေးရန်"ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင် ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- /၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေအခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေ ခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်း လွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါလုပ်ငန်း

အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ စက်ပစ္စည်း၊ စက်ကိရိယာ၊အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေး ရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့်

**ဝန်ဆောင်မှု ရည်မှန်းချက်များ** ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင် အထည်ဖော်ရမည်။

၅။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤ အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးချမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန နှင့် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြု ပြီးဖြစ်သော ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူ စာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး၊ ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧက နှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့် အချိန်မှစ၍ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ(၁၀)နှစ် သက်တမ်း (၂)ကြိမ် ဖြစ်သည်။ စာချုပ် သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ် သည်။ ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧကနှင့် အဆောက်အဦအား ငှားရမ်းမှု သက်တမ်းမှာ လည်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးသည့် အချိန်မှစတင်၍ ကနဦး (၅၀)နှစ် ဖြစ်သည်။

၉။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် နှစ်စဉ် မြေငှားရမ်းခအဖြစ် စုစုပေါင်း မြေ ဧရိယာ ၆.၆၃၅ ဧက အတွက် ကျပ် ၁၆၀ သန်း ကို ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနသို့ ပေးဆောင်ရမည်။ နှစ်စဉ် မြေငှားရမ်းခကို တစ်နှစ်လျှင် (၄)ကြိမ်ခွဲ၍ ပေးသွင်းရမည်။ (၃)လ အတွက် ကျသင့်ငွေ ကျပ် သန်း ၄၀ ကို (၃)လ ပြည့်ပြီး လဆန်း(၇)ရက်အတွင်း နေပြည်တော် မြန်မာ စီးပွားရေးဘဏ် (သို့မဟုတ်) ရန်ကုန်မြို့ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန(ရုံးချုပ်) ဘဏ်စာရင်းသို့ ပေးသွင်းရမည်။ ဘဏ္ဍာနှစ် တစ်နှစ်၏ နောက်ဆုံး ဖြစ်သော မတ်လအတွက် ငှားရမ်းခအား မတ်လ(၂၅)ရက်နေ့ မတိုင်မီ ကြိုတင်ပေးသွင်းရမည်။

၁၀။ မြေငှားရမ်းခကို (၄)နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်၊ အကယ်၍ ငှားရမ်းခ ထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်သည့် နှုန်းသည် မူလ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်ရမည်။

၁၁။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည် မွမ်းမံခြင်း နှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့် တည်ဆောက်ရေးကာလမှာ (၂)နှစ် နှင့် (၆) လ ဖြစ်သည်။

၁၂။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် တည်ဆောက်ရေးကာလ (၂)နှစ် နှင့် (၆) လ အတွင်း ရရှိသော ဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန် ကို ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးဆောင်ရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနနှင့် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်)တို့ ချုပ်ဆိုမည့် ကလောဟိုတယ်မြေဧရိယာ(၆.၆၃၅) ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ် ခေါင်းခွန်များ တစ်လအတွင်း ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင်စီ ကို ဤ ကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၄။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် ကျပ် သန်း ၅၀ ကို နေပြည်တော် မြန်မာ့စီးပွားရေး ဘဏ်(သို့မဟုတ်) ရန်ကုန်မြို့ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန(ရုံးချုပ်)ဘဏ်စာရင်းသို့ အငှားချထားသူအား တစ်လုံးတစ်ခဲတည်း အပြီးပေးသွင်း ပြီးမှသာ စာချုပ် ချုပ်ဆိုမည်ဖြစ်သည်။

၁၅။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက် ရမည်။

၁၆။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည်မဖော် မီကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၁၇။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်

နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက် တွင် တင်ပြထား သည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၈။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ် ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့်အတိုင်း စနစ်တကျဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

၁၉။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၂။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန/ အဖွဲ့အစည်းများ မှ ချမှတ်ထားသော တည်ဆဲ စည်းမျဥ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၃။ အဆို ပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့်မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်းသို့မဟုတ်

တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကိုတစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာ ကစစ်ဆေးတွေ့ရှိလျှင် လိုအပ်သလိုအရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍(တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၅၀၁/၂၀၁၆(                )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ            ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ တောင်ကြီးမြို့
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
မန်နေဂျင်းဒါရိုက်တာ၊ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက် )

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၆ (မနသ)
## ၂၀၁၆ ခုနှစ် မတ်လ ရက်

၁။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် (၄၄)၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေဧရိယာ(၃.၇၈၅)ဧကနှင့် (၂.၈၅) ဧက စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧက တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏( ၁၀ /၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ "ခွင့်ပြုမိန့် ထုတ်ပေးရန်"ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇)၊ ပုဒ်မ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- /၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါလုပ်ငန်း

အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၈(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၈(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၈(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၈(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၈(ဆ)အရ ပြည်ပမှ စက်ပစ္စည်း၊ စက်ကိရိယာ၊အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့်

ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤ အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးချမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန နှင့် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူ စာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး၊ ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧက နှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့် အချိန်မှစ၍ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ(၁၀)နှစ် သက်တမ်း (၂)ကြိမ် ဖြစ်သည်။ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။ ကလောဟိုတယ် မြေဧရိယာ(၆.၆၃၅)ဧကနှင့် အဆောက်အဦအား ငှားရမ်းမှု သက်တမ်းမှာလည်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးသည့် အချိန်မှစတင်၍ ကနဦး (၅၀)နှစ် ဖြစ်သည်။

၉။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် နှစ်စဉ် မြေငှားရမ်းခအဖြစ် စုစုပေါင်း မြေ ဧရိယာ ၆.၆၃၅ ဧက အတွက် ကျပ် ၁၆၀ သိန်း ကို ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနသို့ ပေးဆောင်ရမည်။ နှစ်စဉ် မြေငှားရမ်းခကို တစ်နှစ်လျှင် (၄)ကြိမ်ခွဲ၍ ပေးသွင်းရမည်။ (၃)လ အတွက် ကျသင့်ငွေ ကျပ် သိန်း ၄၀ ကို (၃)လ ပြည့်ပြီး လဆန်း(၇)ရက်အတွင်း နေပြည်တော် မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်) ရန်ကုန်မြို့ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန(ရုံးချုပ်) ဘဏ်စာရင်းသို့ ပေးသွင်းရမည်။ ဘဏ္ဍာနှစ် တစ်နှစ်၏ နောက်ဆုံးဖြစ်သော မတ်လအတွက် ငှားရမ်းခအား မတ်(၂၅)ရက်နေ့ မတိုင်မီ ကြိုတင်ပေးသွင်းရမည်။

၁၀။ မြေငှားရမ်းခကို (၄)နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်။ အကယ်၍ ငှားရမ်းခ ထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်သည့် နှုန်းသည် မူလ ငှားရမ်းခ၏ ၁၀ % ထက်မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်ရမည်။

၁၁။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည် မွမ်းမံခြင်း နှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့် တည်ဆောက်ရေး ကာလမှာ (၂)နှစ် နှင့် (၆) လ ဖြစ်သည်။

၁၂။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနနှင့် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်)တို့ ချုပ်ဆိုမည့် ကလောဟိုတယ်မြေဧရိယာ(၆.၆၃၅) ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ် ခေါင်းခွန်များ တစ်လအတွင်း ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင်စီ ကို ဤ ကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၃။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် ကျပ် သန်း ၅၀ ကို နေပြည်တော် မြန်မာ့စီးပွားရေး ဘဏ်(သို့မဟုတ်) ရန်ကုန်မြို့ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန(ရုံးချုပ်)ဘဏ်စာရင်းသို့ အငှားချထားခြင်းခံရသူသို့ တစ်လုံးတစ်ခဲတည်း အပြီးပေးသွင်းရမည်။ ပေးသွင်းပြီးမှသာ စာချုပ် ချုပ်ဆိုမည်ဖြစ်သည်။

၁၄။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက် ရမည်။

၁၅။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည်မဖော် မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၁၆။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်

စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက် တွင် တင်ပြထား သည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၇။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ် ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြု ထားသည့်အတိုင်း စနစ်တကျဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

၁၈။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေ များ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤ ကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်) လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၁။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန/ အဖွဲ့အစည်းများ မှ ချမှတ်ထားသော တည်ဆဲ စည်းမျဥ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၂။ အဆို ပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့်မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်းသို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထား သော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်

လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကိုတစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာ ကစစ်ဆေးတွေ့ရှိလျှင် လိုအပ်သလိုအရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍(တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၅၀၁/ ၂၀၁၆( )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ တောင်ကြီးမြို့
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
မန်နေဂျင်းဒါရိုက်တာ၊ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက် )

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၅ ရက်

အကြောင်းအရာ။ Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြင့်ပြန်လည်မွမ်းမံပြင်ဆင်ခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ဟိုတယ်နှင့် ခရီးသွားရေးလုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြ လာခြင်းကိစ္စ

၁။ ယင်း အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ ကော်မရှင်၏ (၁၀ / ၂၀၁၆) အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ(မူကြမ်း)**အားပြုစုတင်ပြ အပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | 15/3/16 | 15/3/16 | 15/3 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ MIC (10/2016) [illegible]

16-3-16

(ဝင်းမော်ဦး)

[illegible]

၃။ [illegible]

[illegible]

[illegible]

၄။ [illegible]

Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ ကလောဟိုတယ်အား အဆင့်မြင့် ပြန်လည်မွမ်းမံပြင်ဆင်ခြင်း နှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား ကော်မရှင်အစည်းအဝေးသို့တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၄-၁၁-၂၀၁၅ | | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရှမ်းပြည်နယ်အစိုးရအဖွဲ့ | ၈-၁၂-၂၀၁၅ | ၂၃-၂-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၈-၁၂-၂၀၁၅ | ၂၁-၁၂-၂၀၁၅ | |
| | (ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၈-၁၂-၂၀၁၅ | ၁၈-၂-၂၀၁၆ | |
| | (ဃ) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၈-၁၂-၂၀၁၅ | ၃၁-၁၂-၂၀၁၅ | |
| | | ၂၂-၂-၂၀၁၆ | ၁၀-၃-၂၀၁၆ | |
| ၃။ | PAT အစည်းအဝေး (၄၅/၂၀၁၅)(၇-၁၂-၂၀၁၅)သို့ တင်ပြခြင်း | ၂-၁၂-၂၀၁၅ | | |
| ၄။ | PATအစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ပြန်ကြား သည့် ရက်စွဲ | ၁၄-၁၂-၂၀၁၅ | ၁၇-၁၂-၂၀၁၅ | |
| ၅။ | ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပေးပို့ခြင်း | | ၁၉-၁၂-၂၀၁၅ | |
| ၆။ | ကုမ္ပဏီမှ အဆိုပြုလွှာ(၈)စုံ ပြန်လည်ပြင်ဆင် ပေးပို့ခြင်း | | | |
| ၇။ | **စုစုပေါင်းကြာမြင့်ရက်** | ( ၁၁၀ )ရက် | | |

မှတ်ချက်။ ရှမ်းပြည်နယ် အစိုးရအဖွဲ့ရုံး နှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ သဘောထားမှတ်ချက်များ အား ၈-၁၂-၂၀၁၅ ရက်နေ့တွင် သဘောထားတောင်းခံခဲ့ရာ (၂၃-၂-၂၀၁၆) ရက်နေ့ နှင့် (၁၀-၃-၂၀၁၆) ရက်နေ့ ရက်စွဲပါစာဖြင့် ရရှိပါသဖြင့်ရက်ပေါင်း (၁၁၀)ရက် ကြာမြင့်ခြင်း ဖြစ်ပါသည်။

ကုမ္ပဏီအမည် - Lighting Specialist Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။)

လုပ်ငန်းအမျိုးအစား - နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

တည်နေရာ - ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ် (၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ် ၈၄/A၊ ရှိမြေဧရိယာ(၃.၇၈၅)ဧကနှင့်(၂.၈၅)ဧကစုစုပေါင်းမြေဧရိယာ(၆.၆၃၅)ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၂၁၃၀၄.၈၀၆ သန်း (US$ ၁၃.၄၈၅ သန်းအပါအဝင်)

လုပ်ငန်းသက်တမ်း - ကနဦး နှစ် (၅၀)

အရင်းကြေကာလ - (၁၇) နှစ် (၁၀)လ

IRR - ၁၃ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၈၆ | |
| ၄ | ဝင်ငွေခွန် | ၂၄၇.၆၂ | ၇၆၅.၉၅ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၆၁၁.၁၅ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၈၆.၀၄ |
| ၇ | CSR (၁%) | | ၃၀.၆၂ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း (၇၇)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၂၅၀.၆၄ | ၁၄၉၄.၉၃ |
| | Cost : Benefit | ၁ : ၅ | |

# Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံပြင်ဆင်ခြင်း နှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>လုပ်ငန်းအဆိုပြုသူအမည်<br>အဖွဲ့အစည်းပုံသဏ္ဍာန်<br>အဆိုပြုလုပ်ငန်းအမျိုးအစား | - Lighting Specialist Co., Ltd.<br>- ဦးကျော်မိုးနိုင်(မန်နေဂျင်းဒါရိုက်တာ)<br>- လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။)<br>- နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း<br><br><br><br>မြေပိုင်ရှင် | - ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ် ၈၄/A ရှိ မြေဧရိယာ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ ဧရိယာ(၆.၆၃၅) ဧက<br>- ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန |
| ၃။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၅၀)နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - (၂)နှစ် (၆) လ |
| ၅။ | ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနပိုင် ကလောဟိုတယ်နှင့် မြေဧရိယာ(၆.၆၃၅)ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်းအတွက် မူလစာချုပ်အား ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း) | (က) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနနှင့် Lighting Specialist Co., Ltd. တို့ ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်းစာချုပ် ပြင်ဆင်ချက်(မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အညီ ပြင်ဆင်တင်ပြထားပါသည်။ စာချုပ် ပြင်ဆင်ချက်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) မြေငှားရမ်းသည့်ကာလသက်တမ်းကို စာချုပ်လက်မှတ်ရေးထိုးသည့် ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ (၁၀)ရက်နေ့မှ စ၍ ကနဦး (၅၀)နှစ် (၁၁-၁၂-၂၀၁၄ မှ ၁၀-၁၂-၂၀၆၄ ထိ) ငှားရမ်းမည်ဖြစ်ပြီး ကနဦး သက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် သက်တမ်း(၂)ကြိမ်ထိ တိုးမြှင့်ငှားရမ်းမည်ဖြစ်ပါသည်။ **အပိုဒ် - ၂**<br>(၂) မြေငှားရမ်းခအဖြစ် နှစ်စဉ် ငှားရမ်းခ တစ်နှစ်လျှင် ကျပ် ၁၆၀ သန်း (သို့မဟုတ်)စုစုပေါင်းဝင်ငွေ၏ ၅% ယင်းနှစ်ရပ် အနက်များရာကို ပေးသွင်းရမည်။ **အပိုဒ် - ၃(က)**<br>(၃) နှစ်စဉ် ငှားရမ်းခကို (၄)နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည်ညှိနှိုင်းသုံးသပ်တိုးမြှင့်သတ်မှတ်ရမည်။ တိုးမြှင့် သတ်မှတ်မှု ပမာဏသည်မူလငှားရမ်းခ၏ ၁၀% ထက်မပိုစေရ။ **အပိုဒ် - ၃(ခ)**<br>(၄) မြေအသုံးချမှုပရီမီယံကြေးအား ကျပ် သန်း ၅၀ ပေးသွင်းရမည်။ **အပိုဒ် - ၃(ဂ)**<br>(၅) စာချုပ်တံဆိပ်ခေါင်းခွန်နှင့် ပတ်သက်၍ အငှားချထားသူက ပေးဆောင်ရမည်။ **အပိုဒ် - ၃(ဃ)**<br>(၆) နှစ်စဉ်ငှားရမ်းခ တစ်နှစ်လျှင် ကျပ် သန်း ၁၆၀ ကို တစ်နှစ်လျှင်(၄)ကြိမ်ခွဲ၍ပေးသွင်းရမည်။ (၃)လအတွက် ကျသင့်ငွေ ကျပ်သန်း(၄၀)ကို (၃)လ ပြည့်ပြီးနောက် လဆန်း(၇)ရက်အတွင်း အငှားချထားသူသတ်မှတ်သည့် နေပြည်တော် မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်) ရန်ကုန်မြို့၊ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန |

(ရုံးချုပ်) ဘဏ် စာရင်းသို့ ပေးသွင်းရမည်။ ဘဏ္ဍာနှစ် တစ်နှစ်၏ နောက်ဆုံးလ ဖြစ်သော မတ်လအတွက် ငှားရမ်းခအား မတ်လ(၂၅)ရက်နေ့ မတိုင်မီ ကြိုတင် ပေးသွင်းရမည်။ ဘဏ္ဍာနှစ် ကုန်ဆုံးပြီးနောက် စုစုပေါင်းဝင်ငွေ၏ ၅% ကို တွက်ချက်၍ အနည်းဆုံး ပေးသွင်းရမည့် နှစ်စဥ်ငှားရမ်းခ ကျပ် သန်း ၁၆၀ ထက်ပိုမိုနေပါက ဧပြီလအတွင်း ထပ်မံပေးသွင်းရမည့် ငွေပမာဏကို ပေးသွင်းရမည်။ **အပိုဒ် - ၄(က)**

(၇) မြေအသုံးချမှု ပရီမီယံကြေး ကျပ် သန်း ၅၀ ကို နေပြည်တော် မြန်မာ့စီးပွားရေးဘဏ်(သို့မဟုတ်)ရန်ကုန်မြို့မြန်မာ့စီးပွားရေး ဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန (ရုံးချုပ်) ဘဏ်စာရင်းသို့ အငှားချထားခြင်း ခံရသူက တစ်လုံးတစ်ခဲတည်းအပြီးပေးသွင်းရမည်ပေးသွင်းပြီးမှသာ ဤပြင်ဆင်ချက်သဘောတူစာချုပ်ကိုနှစ်ဖက်ချုပ်ဆိုမည်ဖြစ်သည်။ **အပိုဒ် - ၄(ခ)**

(၈) အာမခံ စပေါ်ငွေသည် ငှားရမ်းခကို ခုနှိမ်ရန် မဟုတ်ပါ။ **အပိုဒ် - ၅**

(၉) ဟိုတယ် ငှားရမ်းခသည် တစ်နှစ်အတွက် ငှားရမ်းခအဖြစ် သတ်မှတ်သည့် တစ်နှစ်အတွင်း ပေးဆောင်ရမည်ဖြစ်ပြီး၊ တစ်နှစ်အတွင်း ပေးဆောင်ရန် ပျက်ကွက်ပါက တစ်နှစ်ကုန်ဆုံးပြီးနောက် တစ်ရက်မှစ၍ ဒဏ်ကြေးကောက်ခံပါမည်။ **အပိုဒ် - ၆(က)**

(၁၀) ရက်လွန်ကြေးများမှာ ကျော်လွန်သောရက် တစ်ရက်လျှင် တစ်ရက် ငှားရမ်းခ၏ ၁% ဖြင့်ကောက်ခံပါမည်။ **အပိုဒ် - ၆(ခ)**

(၁၁) ဒဏ်ကြေးကောက်ခံသည့် ရက်စုစုပေါင်းသည် တစ်နှစ်အတွက် (၃၆၅) ရက်ထက် မပိုစေသော ကာလအတွက်သာ ကောက်ခံပါမည်။ **အပိုဒ် - ၆(ဂ)**

(၁၂) အငှားချထားခြင်းခံရသူသည် နိုင်ငံပိုင်ကလောဟိုတယ်အား နှစ်ရှည်ငှားရမ်း လုပ်ကိုင်ခွင့်ပြုထားခြင်းသာ ဖြစ်ပါသည်။ ဤဟိုတယ် အမည်ပေါက် မြေနေရာ အဆောက်အဦနှင့် တစ်ဆက်တစ်စပ်တည်းရှိသော ပစ္စည်းကိရိယာများ အားလုံးသည် အငှားချထားသူ၏ ပိုင်ဆိုင်မှုသာ ဖြစ်သည့် အတွက် အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက် မရရှိဘဲ ထပ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ အမည်လွှဲပြောင်း ပေးခြင်း စသည့်တို့ကို လုံးဝမပြုလုပ်ရ။ **အပိုဒ် - ၇**

(၁၃) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါ အဆောက်အဦအကွက် ချပုံစံ(Site Plan) အဆောက်အဦ အမျိုးအစားအလိုက်၏အရေအတွက်နှင့် ပုံစံ(Drawing)များ အတိုင်းသာ ဆောက်လုပ်သွားရမည်ဖြစ်ပြီး၊ ပြောင်းလဲပြင်ဆင် ဆောက်လုပ်ပါက အငှားချထားသူထံ ပြန်လည်၍ အတည်ပြုချက်ရရှိပြီးမှသာဆောက်လုပ်ခွင့်ပြုသည်။ အငှားချထားခြင်းခံရသူသည် မိမိတို့ အဆိုပြုလွှာတွင် တင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏ အတိုင်း ပြန်လည် ရင်းနှီးမြှုပ်နှံရမည်။ Site

Plan နှင့် Drawing မှာ နောက်ဆက်တွဲ(ခ)ပါ အတိုင်း ဖြစ်ပါသည်။ **အပိုဒ် - ၈**

(၁၄) ဤစာချုပ် သက်တမ်းသည် မူလစာချုပ် လက်မှတ်ရေးထိုးသည့် (၁၁-၁၂-၂၀၁၄) မှ (၁၀-၁၂-၂၀၆၄) ထိ ကနဦး နှစ်(၅၀)ဖြစ်ပါသည်။ သို့သော် အငှားချထားခြင်း ခံရသူ၏ စာချုပ်ပါ စည်းကမ်းများအား လိုက်နာရန် ပျက်ကွက်မှုကြောင့် အငှားချထားသူကစာချုပ်ပါစည်းကမ်းနှင့်အညီ ငှားရမ်းခြင်းကို ရပ်စဲသောနေ့သည် စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ဟုသတ်မှတ်ရမည်။ ယင်းစာချုပ် သက်တမ်းကုန်ခဲ့လျှင် အငှားချ ထားသူက အငှားချထားခြင်းခံရသူထံမှ တစ်စုံတစ်ရာ ခုနှိမ်ရန် မရှိပါက အငှားချထားခြင်းခံရသူ တင်သွင်းထားသည့်လုပ်ငန်း အာမခံငွေ ကိုပြန်လည်ထုတ်ပေးရန်သဘောတူသည်။ **အပိုဒ် - ၉**

၆။ စုစုပေါင်းမတည်ငွေရင်းပမာဏ

| | မူလ ကိုယ်ပိုင် (ကျပ်/သန်း) | မူလ နိုင်ငံခြားငွေ (US$) | တိုးချဲ့ ကိုယ်ပိုင် (ကျပ်/သန်း) | တိုးချဲ့ နိုင်ငံခြားငွေ (US$) | စုစုပေါင်း ကျပ်/သန်း |
|---|---|---|---|---|---|
| ငွေသား | ၁၉၂၆.၈၀၄ | ၆၆၁,၁၀၆ | ၂၉၄၈.၅၂ | ၆၈၁,၁၁၉ | ၆၂၁၇.၅၄၉ |
| စက်ပစ္စည်းကိရိယာများ | ၁၀.၂၂ | ၃၄၃,၄၂၄ | ၃၁.၃၇၆ | ၃,၁၀၃,၃၈၂ | ၃၄၉၁.၄၀၂ |
| လုပ်ငန်းသုံးယာဉ်များ | | ၁၇၂,၀၀၀ | | ၈၀၀,၀၀၀ | ၉၇၂.၀၀၀ |
| ဟိုတယ်အဆောက်အဦ | | ၁၂၆,၈၀၈ | | ၂,၅၂၆,၉၃၂ | ၂၆၅၃.၇၄ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း | ၅၉၄.၉၂၄ | | ၂၃၀၇.၅၀၃ | ၂,၉၃၃,၉၄၁ | ၅၈၃၆.၃၆၈ |
| ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ | | ၁၇၈,၂၄၄ | | ၁,၉၅၅,၅၀၃ | ၂၁၃၃.၇၄၇ |
| **စုစုပေါင်း** | **၂၅၃၁.၉၄၈** | **၁,၄၈၁,၅၈၂** | **၅၂၈၇.၃၉၉** | **၁၂,၀၀၃,၈၇၇** | **၂၁၃၀၄.၈၀၆** |

၇။ ဝန်ဆောင်မှု(၆)နှစ်မြောက်

- ဟိုတယ်အခန်းအရေအတွက် စုစုပေါင်း(၁၅၅)ခန်း

| စဉ် | အမျိုးအစား | လက်ရှိ အခန်း အရေ အတွက် | လက်ရှိ ဝန်ဆောင်ခနှုန်း (တစ်ရက်) US$ | တိုးချဲ့ အခန်းအရေ အတွက် | တိုးချဲ့ ဝန်ဆောင်ခ နှုန်း (တစ်ရက်) US$ |
|---|---|---|---|---|---|
| (က) | Suite | ၁၂ | ၉၅ | - | - |
| (ခ) | Deluxe | ၁၅ | ၈၅ | ၅၂ | ၈၅ |
| (ဂ) | Superior | ၁၈ | ၇၅ | - | - |
| (ဃ) | Standard | - | - | ၅၃ | ၆၅ |
| (င) | Villa | - | - | ၅ | ၁၁၀ |
| | စုစုပေါင်း | ၄၅ | | ၁၁၀ | |

၈။ ဝင်ငွေ - ကျပ် ၅၈၉၆.၅၉ သန်း

အသားတင်အမြတ်(၆ နှစ်မြောက်) - ကျပ် ၁၇၀၁.၇၅ သန်း

၉။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်

ဝင်ငွေခွန် - ကျပ် ၃၅၈.၇၄ သန်း

ကုန်သွယ်လုပ်ငန်းခွန် - ကျပ် ၂၉၄.၈၃ သန်း

၁၀။ အရင်းကြေကာလ - ၁၇ နှစ် ၁၀ လ

၁၁။ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) - ၁၃ %

| | | |
|---|---|---|
| ၁၂။ | ဝန်ထမ်းအင်အား | - ၈၉ ဦး |
| | ပြည်တွင်း | - ၇၇ ဦး (တစ်လလျှင် ပြည်တွင်း လုပ်သား တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ်၂၀၀,၀၀၀ ၊အမြင့်ဆုံး လစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁၂ ဦး (တစ်လလျှင် ပြည်ပလုပ်သားတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂,၅၀၀,၀၀၀ ၊ အမြင့်ဆုံးလစာမှာ ကျပ် ၅,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၁၃။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၁ % အား သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၄။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ်တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၅။ | လျှပ်စစ်ဓါတ်အား | - လျှပ်စစ် ဓါတ်အားလိုင်းကို မဟာဓါတ်အားလိုင်းမှ ရယူဆောင်ရွက်သွားမည်ဖြစ်ပြီး မရရှိသည့် အချိန်တွင် ကိုယ်ပိုင် မီးစက် (Generator-200 KVA)(၂)လုံးဖြင့် အသုံးပြု ဆောင်ရွက်သွားမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၁၆။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထား အဖြစ် Lighting Specialist Co., Ltd.၊ U Kyaw Moe Naing နှင့် Daw Thein Thein Wai အမည်တို့ ဖြင့် NAYPYITAW SIBIN BANK (ZABUTHIRI) တွင် (၆-၁-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁,၃၃၈,၈၁၆,၂၁၀.၀၀ ၊ U Kyaw Moe Naing နှင့် Daw Thein Thein Wai အမည်တို့ဖြင့် AYA BANK (NAYPYITAW) တွင်(၇-၁-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁,၄၅၅,၁၆၂,၄၁၈.၀၄ ရှိကြောင်း ဖော်ပြထားရာသုံးစွဲမည့် ကျပ် (၁၃၈၀၅.၀၁၂)သန်း အတွက် ငွေကြေးလုံလောက်မှုရှိကြောင်း တွေ့ရှိရပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထား အဖြစ် Lighting Specialist Co., Ltd. အမည်ဖြင့် MYANMA INVESTMENT AND COMMERCIAL BANK တွင်(၂-၂-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် US$ ၃၃၇၈၄၄.၈၆ ရှိကြောင်း ဖော်ပြထားပါသည်။ |
| ၁၇။ | စိစစ်တင်ပြချက် | (က) Lighting Specialist Co., ltd (Myanmar) မှ Singapore နိုင်ငံရှိ Galaluz Pte., Ltd. ချေးငွေ ကျပ် ၁၄,၅၀၀,၀၀၀,၀၀၀ ကို ချေးယူပြီး ချေးငွေအား အရစ်ကျ ပြန်ဆပ်မည့် အစီအစဉ် နှင့် ချေးငွေ စာချုပ်(မူကြမ်း)အား နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထားအရ Valuation Assessment အား တင်ပြထားခြင်းကို ပေးပို့ထားပြီးဖြစ်ပါသည်။<br>(ခ) ချေးငွေ၏ အတိုးနှုန်းမှာ ၅ % ဖြစ်ပြီး ပြန်ဆပ်မည့် ကာလမှာ ၆ နှစ်ဖြစ်ပါကြောင်း တင်ပြထားပါသည်။<br>(ဂ) Car parking အဖြစ်ထားရှိမှု အခြေအနေမှာ ကားအစီးရေ ၅၀ စီး၊ရပ်နားနိုင်ရန်စီစဉ် ဆောင်ရွက်ထားကြောင်းတင်ပြထားပါသည်။ |

(ဃ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်းတွင် လုပ်ငန်းသုံးယာဉ်များအား တင်သွင်း လိုကြောင်းတင်ပြထားပါသည်-

| ယာဉ်အမျိုးအစား | Phase (I) | | Phase (II) | |
|---|---|---|---|---|
| | အရေအတွက် | ဈေးနှုန်း US$ | အရေအတွက် | ဈေးနှုန်း US$ |
| Tour Bus(20 Seater) | ၁ | ၆၀,၀၀၀ | ၄ | ၆၀,၀၀၀ |
| Tour Bus(45 Seater) | ၁ | ၈၈,၀၀၀ | ၅ | ၈၈,၀၀၀ |
| Pick-up truck | ၁ | ၂၄,၀၀၀ | ၅ | ၂၄,၀၀၀ |

(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ လုပ်ငန်းသုံးယာဉ်များကို ပြည်ပမှ မှာယူ တင်သွင်းမည် ဖြစ်ပါရာ အဆိုပါလုပ်ငန်းသုံးယာဉ်များအား တင်သွင်းရာတွင် ကျသင့်သည့် အခွန်အခများကို ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ရယူမည်မဟုတ်ပဲ ကုမ္ပဏီမှ ကျသင့်အခွန်အခများကို ထမ်းဆောင်ပြီး တင်သွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာတင်ပြထားပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက- ၄/မ-၁၅၀၀/၂၀၁၆( ၄၂၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံပြင်ဆင်ခြင်း နှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ်၈၄/A ရှိ မြေဧရိယာ (၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ(၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည် ပြင်ဆင်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြ လာခြင်းအား ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄၅/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ (၅၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၂)နှစ်နှင့် (၆)လ ဖြစ်ပါသည်။

၃။ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနနှင့် Lighting Specialist Co., Ltd. တို့ ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် မြေငှားရမ်း ခြင်းစာချုပ် ပြင်ဆင်ချက်(မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြထားပါသည်။ စာချုပ် ပြင်ဆင်ချက်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေငှားရမ်းသည့်ကာလသက်တမ်းကို စာချုပ်လက်မှတ်ရေးထိုးသည့် ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာလ (၁၀)ရက်နေ့မှ စ၍ ကနဦး (၅၀)နှစ် (၁၁-၁၂-၂၀၁၄ မှ ၁၀-၁၂-၂၀၆၄ ထိ) ငှားရမ်းမည် ဖြစ်ပြီး ကနဦး သက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင် (၁၀) နှစ် ဖြင့် သက်တမ်း(၂)ကြိမ်ထိ တိုးမြှင့်ငှားရမ်းမည်ဖြစ်ပါသည်။ အပိုဒ် - ၂

(ခ) မြေငှားရမ်းခအဖြစ် နှစ်စဉ် ငှားရမ်းခ တစ်နှစ်လျှင် ကျပ် ၁၆၀ သန်း (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ ၅% ယင်းနှစ်ရပ်အနက်များရာကိုပေးသွင်းရမည်။ အပိုဒ် - ၃(က)

(ဂ) နှစ်စဉ် ငှားရမ်းခကို (၄)နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည်ညှိနှိုင်း သုံးသပ်တိုးမြှင့် သတ်မှတ်ရမည်။ တိုးမြှင့်သတ်မှတ်မှု ပမာဏသည် မူလငှားရမ်းခ၏ ၁၀% ထက်မပိုစေရ။ အပိုဒ် - ၃(ခ)

(ဃ) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ် သန်း ၅၀ ပေးသွင်းရမည်။ အပိုဒ် - ၃(ဂ)

(င) စာချုပ်တံဆိပ်ခေါင်းခွန်နှင့် ပတ်သက်၍ အငှားချထားသူက ပေးဆောင်ရမည်။ **အပိုဒ် - ၃(ဃ)**

(စ) နှစ်စဉ်ငှားရမ်းခ တစ်နှစ်လျှင် ကျပ် သန်း ၁၆၀ ကို တစ်နှစ် လျှင်(၄)ကြိမ်ခွဲ၍ ပေးသွင်းရမည်။ (၃)လအတွက် ကျသင့်ငွေ ကျပ်သန်း(၄၀)ကို (၃)လ ပြည့်ပြီးနောက် လဆန်း (၇)ရက် အတွင်း အငှားချထားသူသတ်မှတ်သည့် နေပြည်တော် မြန်မာ့ စီးပွားရေးဘဏ် (သို့မဟုတ်) ရန်ကုန်မြို့၊ မြန်မာ့စီးပွားရေး ဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန (ရုံးချုပ်) ဘဏ် စာရင်းသို့ ပေးသွင်းရမည်။ ဘဏ္ဍာနှစ် တစ်နှစ်၏ နောက်ဆုံးလဖြစ်သော မတ်လအတွက် ငှားရမ်းခအား မတ်လ (၂၅)ရက်နေ့ မတိုင်မီကြိုတင် ပေးသွင်းရမည်။ ဘဏ္ဍာနှစ် ကုန်ဆုံးပြီးနောက် စုစုပေါင်း ဝင်ငွေ၏ ၅% ကို တွက်ချက်၍ အနည်းဆုံး ပေးသွင်းရမည့် နှစ်စဉ်ငှားရမ်းခ ကျပ် သန်း ၁၆၀ ထက် ပိုမိုနေပါက ဧပြီလအတွင်း ထပ်မံ ပေးသွင်းရမည့် ငွေပမာဏကို ပေးသွင်းရမည်။ **အပိုဒ် - ၄(က)**

(ဆ) မြေအသုံးချမှု ပရီမီယံကြေး ကျပ် သန်း ၅၀ ကို နေပြည်တော် မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်)ရန်ကုန်မြို့၊ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန (ရုံးချုပ်) ဘဏ်စာရင်းသို့ အငှားချထားခြင်း ခံရသူက တစ်လုံး တစ်ခဲတည်း အပြီးပေးသွင်းရမည် ပေးသွင်းပြီးမှသာ ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို နှစ်ဖက်ချုပ်ဆိုမည်ဖြစ်သည်။ **အပိုဒ် - ၄(ခ)**

(ဇ) အာမခံ စပေါ်ငွေသည် ငှားရမ်းခကို ခုနှိမ်ရန် မဟုတ်ပါ။ **အပိုဒ် - ၅**

(ဈ) ဟိုတယ် ငှားရမ်းခသည် တစ်နှစ်အတွက် ငှားရမ်းခအဖြစ် သတ်မှတ်သည့် တစ်နှစ်အတွင်း ပေးဆောင်ရမည်ဖြစ်ပြီး၊ တစ်နှစ်အတွင်း ပေးဆောင်ရန် ပျက်ကွက်ပါက တစ်နှစ် ကုန်ဆုံးပြီးနောက် တစ်ရက်မှစ၍ ဒဏ်ကြေးကောက်ခံပါမည်။ **အပိုဒ် - ၆(က)**

(ည) ရက်လွန်ကြေးများမှာ ကျော်လွန်သောရက် တစ်ရက်လျှင် တစ်ရက်ငှားရမ်းခ၏ (၁%) ဖြင့် ကောက်ခံပါမည်။ **အပိုဒ် - ၆(ခ)**

(ဋ) ဒဏ်ကြေးကောက်ခံသည့် ရက်စုစုပေါင်းသည် တစ်နှစ်အတွက် (၃၆၅) ရက်ထက် မပိုစေသော ကာလအတွက်သာ ကောက်ခံပါမည်။ **အပိုဒ် - ၆(ဂ)**

(ဌ) အငှားချထားခြင်းခံရသူသည် နိုင်ငံပိုင်ကလောဟိုတယ်အား နှစ်ရှည်ငှားရမ်း လုပ်ကိုင်ခွင့်ပြုထားခြင်းသာဖြစ်ပါသည်။ ဤဟိုတယ် အမည်ပေါက် မြေနေရာ အဆောက်အဦနှင့် တစ်ဆက်တစ်စပ်တည်းရှိသော ပစ္စည်းကိရိယာများအားလုံးသည် အငှားချထားသူ၏ ပိုင်ဆိုင်မှုသာ ဖြစ်သည့်အတွက် အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက် မရရှိဘဲ ထပ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ အမည်လွှဲပြောင်း ပေးခြင်းစသည့်တို့ကို လုံးဝမပြုလုပ်ရ။ **အပိုဒ် - ၇**

(ဍ) အငှားချထားခြင်းခံရသူသည် အဆိုပြု တင်ပြထားသည့် စာချုပ်ပါ အဆောက်အဦ အကွက် ချပုံစံ(Site Plan) အဆောက်အဦ အမျိုးအစားအလိုက်၏အရေအတွက်နှင့် ပုံစံ(Drawing)များ အတိုင်းသာ ဆောက်လုပ်သွားရမည်ဖြစ်ပြီး၊ ပြောင်းလဲပြင်ဆင် ဆောက်လုပ်ပါက အငှားချထားသူထံ ပြန်လည်၍ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုသည်။ အငှားချထားခြင်းခံရသူသည် မိမိတို့ အဆိုပြုလွှာတွင် တင်ပြ

ထားသည့် ရင်းနှီး မြှုပ်နှံမှုပမာဏ အတိုင်း ပြန်လည် ရင်းနှီးမြှုပ်နှံရမည်။ Site Plan နှင့် Drawing မှာ နောက်ဆက်တွဲ(ခ)ပါ အတိုင်းဖြစ်ပါသည်။ **အပိုဒ် - ၈**

(ပ) ဤစာချုပ် သက်တမ်းသည် မူလစာချုပ် လက်မှတ်ရေးထိုး သည့် (၁၁-၁၂-၂၀၁၄) မှ (၁၀-၁၂-၂၀၆၄) ထိ ကနဦး နှစ် (၅၀)ဖြစ်ပါသည်။ သို့သော် အငှားချထားခြင်း ခံရသူ ၏ စာချုပ် ပါ စည်းကမ်းများအား လိုက်နာရန် ပျက်ကွက်မှုကြောင့် အငှား ချထားသူက စာချုပ်ပါ စည်းကမ်းနှင့်အညီ ငှားရမ်းခြင်းကို ရပ်စဲသောနေ့သည် စာချုပ် သက်တမ်း ကုန်ဆုံးသည့်နေ့ဟု သတ်မှတ်ရမည်။ ယင်းစာချုပ် သက်တမ်းကုန်ခဲ့လျှင် အငှားချထား သူက အငှားချထားခြင်းခံရသူထံမှ တစ်စုံတစ်ရာ ခုနှိမ်ရန် မရှိပါက အငှားချထားခြင်း ခံရသူ တင်သွင်းထားသည့်လုပ်ငန်း အာမခံငွေကို ပြန်လည်ထုတ်ပေးရန် သဘောတူ သည်။ **အပိုဒ် - ၉**

၄။ လုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ စုစုပေါင်း ကျပ် ၂၁၃၀၄.၈၀၆ သန်း (US$ ၁၃.၄၈၅ သန်း အပါအဝင်) ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | မူလ | | တိုးချဲ့ | | စုစုပေါင်း |
|---|---|---|---|---|---|
| | ကိုယ်ပိုင် (ကျပ်/သန်း) | နိုင်ငံခြားငွေ (US$) | ကိုယ်ပိုင် (ကျပ်/သန်း) | နိုင်ငံခြားငွေ (US$) | ကျပ် သန်း |
| ငွေသား | ၁၉၂၆.၈၀၄ | ၆၆၀,၁၀၆ | ၂၉၄၈.၅၂ | ၆၈၁,၁၁၉ | ၆၂၀၇.၅၄၉ |
| စက်ပစ္စည်းကိရိယာများ | ၁၀.၂၂ | ၄၃၃,၄၂၄ | ၃၁.၃၇၆ | ၃,၁၀၆,၃၈၂ | ၃၄၉၁.၄၀၂ |
| လုပ်ငန်းသုံးယာဉ်များ | | ၁၇၂,၀၀၀ | | ၈၀၀,၀၀၀ | ၉၇၂.၀၀၀ |
| ဟိုတယ်အဆောက်အဦ | | ၁၂၆,၈၀၈ | | ၂,၅၂၆,၉၃၂ | ၂၆၅၃.၇၄ |
| ဆောက်လုပ်ရေးလုပ်ငန်း သုံးပစ္စည်း | ၅၉၄.၉၂၄ | | ၂၃၀၇.၅၀၃ | ၂,၉၃၃,၉၄၁ | ၅၈၃၆.၃၆၈ |
| ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများ | | ၁၇၈,၂၄၄ | | ၁,၉၅၅,၅၀၃ | ၂၁၃၃.၇၄၇ |
| **စုစုပေါင်း** | **၂၅၃၁.၉၄၈** | **၁,၄၈၁,၅၈၂** | **၅၂၈၇.၃၉၉** | **၁၂,၀၀၃,၈၇၇** | **၂၁၃၀၄.၈၀၆** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၇၇)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။ ပြည်တွင်း ဝန်ယမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅,၀၀၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေ အနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဥ် | အမျိုးအစား | လက်ရှိ အခန်း အရေ အတွက် | လက်ရှိ ဝန်ဆောင်ခနှုန်း (တစ်ရက်)US$ | တိုးချဲ့ အခန်းအရေ အတွက် | တိုးချဲ့ ဝန်ဆောင်ခ နှုန်း(တစ်ရက်)US$ |
|---|---|---|---|---|---|
| (က) | Suite | ၁၂ | ၉၅ | - | - |
| (ခ) | Deluxe | ၁၅ | ၈၅ | ၅၂ | ၈၅ |
| (ဂ) | Superior | ၁၈ | ၇၅ | - | - |
| (ဃ) | Standard | - | - | ၅၃ | ၆၅ |
| (င) | Villa | - | - | ၅ | ၁၁၀ |
| | စုစုပေါင်း | ၄၅ | | ၁၁၀ | |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ= ၁၀၀၀ ကျပ်**

| | | US$ သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၅၈၉၆.၅၉ |
| (ခ) | အသုံးစရိတ် | ၄၁၉၄.၈၄ |
| (ဂ) | အသားတင်အမြတ် | ၁၇၀၁.၇၅ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၃၅၈.၇၄ သန်း နှင့်ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂၉၄.၈၃ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁၇)နှစ် (၁၀)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၃ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး။** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်မှု မရှိပါကြောင်း ။

(၂) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အရေးနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာမှန်ကန်မှုရှိပါကြောင်း၊ (အဆိုပါ မြေနေရာ သည် ကလောမြို့၊ အကွက်အမှတ်(၄၄)၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ် (၁၆+၂၀)၊ မြေဧရိယာ (၂.၈၅၀+၃.၇၈၅ ဧက)၊ စုစုပေါင်း (၆.၆၃၅ ဧက) ဖြစ်ပြီး ကလောမြို့နယ်၊ နယ်နိမိတ်အတွင်းရှိ အစိုးရမှ စီမံခန့်ခွဲနိုင်သော မြေဖြစ်ခြင်း၊ မြို့နယ်လယ်ယာမြေ စီမံခန့်ခွဲရေးနှင့် စာရင်းအင်း ဦးစီးဌာန၏ မြေရာဇဝင် မှတ်တမ်းအရ ကလောဟိုတယ်နှင့် ဝန်ထမ်းအိမ်ယာ အဖြစ် (ယာယီ) သတ်မှတ် ထားပါကြောင်း။

(၅) ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၈ ရက်နေ့တွင် ကျင်းပပြုသည့် ရှမ်းပြည်နယ်၊ အစိုးရ အဖွဲ့၊ပြည်နယ်ဝန်ကြီးများလုပ်ငန်းညှိနှိုင်းအစည်းအဝေးအမှတ်စဉ်(၃-၁/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ် ၄(မ)အရ ရှမ်းပြည်နယ် အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထား လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ မှန်ကန်မှုရှိပါ ကြောင်း။

(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက် ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ

ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR)လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏(၁%)အားအသုံးပြုခြင်းတို့ အပါအဝင်ကတိကဝတ်များနှင့်လုပ်ငန်းစီမံချက်များ အတိုင်း အကောင် အထည်ဖော် ဆောင်ရွက်သွားရန်။

(၂) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများ လျော့နည်းစေရန် အတွက် လုပ်ငန်း အကောင်အထည် မဖော်မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)လုပ်ငန်းဆောင်ရွက်ရန်နှင့် IEE အစီရင်ခံစာ တင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာနသို့ တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည် ဖော် ဆောင်ရွက်ရန်။

(၄) သက်ဆိုင်ရာ တိုင်းဒေသကြီး/ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ အထက်ပါ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် ကနဦးပတ်ဝန်းကျင် လေ့လာခြင်း (IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု စီမံချက် (EMP) အစီရင်ခံစာတို့အား Kayng Kyaw Say Engineering Co., Ltd. မှ Third Party အနေဖြင့် ဆောင်ရွက်၍ ရေးဆွဲရန်ညှိနှိုင်းနေပါကြောင်း ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ(၁၉) ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။ )**

(ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း (နောက်ဆက်တွဲ-ဂ)

(၁) ကလောမြို့တွင် တည်ဆောက်မည့် လက်ရှိ ကလောဟိုတယ်အား အဆင့်မြင့်ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ကြယ်လေးပွင့်(အနိမ့်ဆုံး ကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း။

(၂) အဆောက်အဦအပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် တစ်ဖက်ပါ ဆောက်လုပ်ရေး ပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| | ပစ္စည်း အမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Cement | ၁၃၅၄၃.၁၀ Ton | ၁၃၅၄၃.၁၀ Ton | ၁၅၀၅ Ton |
| ၂။ | Rebar | ၂၀၁၅ Ton | ၂၀၁၅ Ton | ३၇၅ Ton |
| ၃။ | Emulsion Paint | ၄၀၈၅ Lit | ၄၀၈၅ Lit | ၄၀၈၅ Lit |

Ton= တန် , Lit = လီတာ

(၃) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင်တင်ပြသော ပုံစံ၊ဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ်တည်ဆောက်မည့်ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိ မည်ဆိုပါက ယခုတွက်ချက် ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါကြောင်း၊ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည် စိစစ်မှုများ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

(၄) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များ အတိုင်း လိုက်နာ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း။

**(မှတ်ချက်။ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ ထောက်ခံတင်ပြထားသည့် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့် အရေအတွက် များအတိုင်း ပြင်ဆင်၍ ကုမ္ပဏီမှ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်နေ့ဖြင့် တင်ပြ ပြီးဖြစ်ပါသည်။)**

(ဃ) **မြန်မာနိုင်ငံတော်ဗဟိုဘဏ်** **(နောက်ဆက်တွဲ-ဃ)**

(၁) Contract Agreement Clause-4 တွင် Purchaser (Lighting Specialist Co., Ltd.) မှ Supplier (Galaluz Pte Ltd.)ထံသို့ ပစ္စည်းဖိုးများ ပေးချေရန်နှင့် Schedule အရ Purchaser က အဆိုပါပေးချေမှုကို FAC ထုတ်ပေးပြီး လပေါင်း ၆၀ မှ စ၍ ၁၂ လလျှင် တစ်ကြိမ် အမေရိကန်ဒေါ်လာ ၁ သန်း နှုန်းဖြင့် ၁၅ ရစ်ခွဲ၍အမေရိကန်ဒေါ်လာ ၁၅သန်း အားပေးရန်ဖော်ပြထား ပြီး Contract Agreement Clause-5 တွင်လည်း ချေးငွေအရင်း အမေရိကန် ဒေါ်လာ ၁၁.၅ သန်းနှင့် ယင်းအပေါ် ၃.၄ % အတိုးနှုန်းဖြင့် (တစ်နှစ်လျှင်၊ တစ်လလျှင် စသည် ဖြင့် ဖော်ပြမထားပါ) ကျသင့် အတိုး အမေရိကန်ဒေါ်လာ ၆.၉ သန်းအား (၂)ရပ် ပေါင်းအမေရိကန်ဒေါ်လာ ၁၈.၄သန်းအား Purchaser (Lighting Specialist Co., Ltd.) က Supplier (Galaluz Pte Ltd.) ထံသို့ ပေးဆပ်ရန်ဖြစ်ကြောင်း ဖော်ပြထားရာ Purchaser (Lighting Specialist Co., Ltd.) အနေဖြင့် စုစုပေါင်း အမေရိကန်ဒေါ်လာ ၃၃.၄ သန်း ပေးရမည့် သဘောတွေ့ရှိရပါသည်။ ကုမ္ပဏီ အနေဖြင့် မည်သည့် ပမာဏမှာ ကုန်ပစ္စည်း ဖိုး၊ ယင်းအပေါ် အတိုးနှုန်း တစ်နှစ်လျှင် မည်မျှနှင့် ပြန်လည်ပေးဆပ်ရမည့်

Supplier Credit တန်ဖိုးပမာဏ အမှန်ကို ရှင်းလင်းစွာဖော်ပြ၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ် သို့ ပြန်လည် တင်ပြရန် ဖြစ်ပါကြောင်း။

(၂) မြန်မာနိုင်ငံတော် ဗဟိုဘဏ် အနေဖြင့် ယခုကဲ့သို့ မရှင်းလင်းသော terms and Conditions များအနေဖြင့် တင်ပြလာသည့် ချေးငွေဖြစ်သဖြင့် ခွင့်ပြုနိုင်ခြင်း မရှိပါကြောင်း ။

**(ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ (၈) ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြချက်အား မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ (၂၂-၂-၂၀၁၆ )ရက်စွဲပါစာဖြင့် ပြန်လည်၍ထပ်မံစိစစ်ပြန်ကြားပေးနိုင်ပါရန်သဘောထား တောင်းခံထားပါသည်။**

၁၀။ Lighting Specialist Co., Ltd. မှ ချေးငွေ နှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ ထပ်မံ၍ လိုအပ်ချက်များအား အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) ကုမ္ပဏီ၏ Debt to Equity Ratio မှာ အလွန်ကွာဟလျက် ရှိသောကြောင့် ငွေချေးသူအနေဖြင့် ၎င်းချေးငွေ ပြန်လည်ပေးဆပ်နိုင်ရေးအတွက် ဝင်ငွေရရှိရန် ဆောင်ရွက်မည့် အစီအစဥ်နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဥ်အား တင်ပြရန်လိုအပ်ပါကြောင်း။

(ခ) ရယူမည့် ချေးငွေသည် Loan-in-kind (Supplier's Credit) ဖြစ်သောကြောင့် ထောက်ပံ့မည့်ပစ္စည်းများ၏တန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထား (Valuation Assessment)အား တင်ပြသွားရန် လိုအပ်ပါကြောင်း။

**(ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၁) ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြထားပါသဖြင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ ထပ်မံ၍ သဘောထား တောင်းခံထားပါသည်။**

၁၁။ ကျပ်ငွေ အထောက်အထား အဖြစ် Lighting Specialist Co., Ltd.၊ U Kyaw Moe Naing နှင့် Daw Thein Thein Wai အမည်တို့ ဖြင့် NAYPYITAW SIBIN BANK (ZABUTHIRI) တွင် (၆-၁-၂၀၁၅) ရက်စွဲ ဖြင့် ငွေလက်ကျန် ကျပ် ၁,၃၃၈,၈၁၆,၂၀၀.၀၀ ၊ U Kyaw Moe Naing နှင့်Daw Thein Thein Wai အမည်တို့ဖြင့် AYA BANK (NAYPYITAW) တွင်(၇-၁-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁,၄၅၅,၁၆၂,၄၁၈.၀၄ ရှိကြောင်း ဖော်ပြထားရာသုံးစွဲမည့် ကျပ် (၁၃၈၀၅.၀၁၂) သန်း အတွက် ငွေကြေးလုံလောက်မှုရှိကြောင်း တွေ့ရှိရ ပါသည်။ နိုင်ငံခြားငွေ အထောက်အထား အဖြစ် Lighting Specialist Co., Ltd. အမည်ဖြင့် MYANMA INVESTMENT AND COMMERCIAL BANK တွင်(၂-၂-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် US$ ၃၃၇၈၄၄.၈၆ ရှိကြောင်း ဖော်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါကြောင်း၊လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဟိုတယ်မှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများ ကို ~ပဒေလုပ်ထုံးလုပ်နည်းနှင့်အညီ နယ်မြေခံ စည်ပင်သာယာရေး ကော်မတီ ကြီးကြပ်မှုအရ စွန့်ပစ်

သွားမည်ဖြစ်ပါကြောင်း၊ ဟိုတယ်နှင့်ခရီးသွားလာရေးညွှန်ကြားမှု ဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ပါကြောင်း၊ ပြည်တွင်း၊ ပြည်ပမှဝယ်ယူမည့် စက်ပစ္စည်းများသည် အသစ်များဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိ ပြုထားပါသည်။

၁၃။ လုပ်ငန်းခွင် သာယာရေးနှင့်ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ဟိုတယ်ဝန်း အတွင်းတွင် ဝန်ထမ်းအိမ်ယာနှင့် ထမင်းစားဆောင်ကိုလည်း တည်ဆောက်ပြီး ထမင်းစားခုံ၊ ကုထားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးခြင်း၊ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီး ခွဲခြားလျက် အလုံအလောက် တည်ဆောက်ထားခြင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ အမှိုက်ပုံးများထားရှိခြင်း၊ ဟိုတယ်ပတ်ဝန်းကျင် သန့်ရှင်းမှုရှိစေရန်အတွက် ရေနုတ်မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန်ဆောင်ရွက်ပေးခြင်း နှင့် ဟိုတယ်အထပ်များတွင်လေဝင်လေထွက်ကောင်းစေရန်စီမံဆောင်ရွက်ပေးခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ ၁ ရာခိုင်နှုန်း သုံးစွဲမည် ဖြစ်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်းမှရယူ၍ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် 200 KVA အသီးသီးရှိသော ကိုယ်ပိုင်မီးစက် (၂)လုံးဖြင့် လုပ်ငန်း လည်ပတ်သွားမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၆။ (က) Lighting Specialist Co., Ltd (Myanmar) မှ Singapore နိုင်ငံရှိ Galaluz Pte., Ltd. ချေးငွေ ကျပ် ၁၄,၅၀၀,၀၀၀,၀၀၀ ကို ချေးယူပြီး ချေးငွေအား အရစ်ကျ ပြန်မည့် အစီအစဉ် နှင့် ချေးငွေ စာချုပ်(မူကြမ်း)နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထားအရ Valuation Assessment အား တင်ပြထားခြင်းကို ပေးပို့ထားပါသည်။

(ခ) ချေးငွေ၏ အတိုးနှုန်းမှာ ၅ % ဖြစ်ပြီး ပြန်ဆပ်မည့်ကာလမှာ ၆ နှစ် ဖြစ်ပါကြောင်း တင်ပြ ထားပါသည်။

(ဂ) Car parking အဖြစ်ထားရှိမှု အခြေအနေမှာ ကားအစီးရေ ၅၀ စီး ရပ်နားနိုင်ရန် စီစဉ်ဆောင်ရွက်ထားကြောင်း တင်ပြထားပါသည်။

(ဃ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်းတွင် လုပ်ငန်းသုံးယာဉ်များအား တင်သွင်းလိုကြောင်းတင်ပြထားပါသည်-

| ယာဉ်အမျိုးအစား | Phase (I) | | Phase (II) | |
|---|---|---|---|---|
| | အရေအတွက် | ဈေးနှုန်း US$ | အရေအတွက် | ဈေးနှုန်း US$ |
| Tour Bus(20 Seater) | ၁ | ၆၀,၀၀၀ | ၄ | ၆၀,၀၀၀ |
| Tour Bus(45 Seater) | ၁ | ၈၈,၀၀၀ | ၅ | ၈၈,၀၀၀ |
| Pick-up truck | ၁ | ၂၄,၀၀၀ | ၅ | ၂၄,၀၀၀ |

(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ လုပ်ငန်းသုံးယာဉ်များကို ပြည်ပမှ မှာယူတင်သွင်းမည် ဖြစ်ပါရာ အဆိုပါ လုပ်ငန်းသုံးယာဉ်များအား တင်သွင်းရာတွင် ကုမ္ပဏီမှ ကျသင့် အခွန်အခများကို ထမ်းဆောင်ပြီး တင်သွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေဧရိယာ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ(၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန် လည် မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

နောက်ဆက်တွဲ(က)



M3-3778
23/2






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ ၂၁၈၃ / ၄ - ၁ / ၂၀၁၆ / အစရ (ရှမ်း)
ရက် စွဲ ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက - ၄ / မ-၁၅၀၁ / ၂၀၁၅ (၉၅၆)

၁။ Lighting Specialist Co;Ltd သည် တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်-၂၀၊ အကွက်အမှတ်- ၄၄၊ ခြံအမှတ်- ၈၄ /A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၈ဧက)နှင့် (၂.၈၅ဧက)၊ စုစုပေါင်းမြေ(၆.၆၃၅ဧက)တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်အားထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်)အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဦးကျော်မိုးနိုင်မှ အဆိုပြုတင်ပြလာခြင်းအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား **ရက်သတ္တပတ်အတွင်း**ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာခြင်းအပေါ် ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊တောင်ကြီးမြို့ ၏၁၂-၁-၂၀၁၆ရက်စွဲပါ စာအမှတ်၊ ၅ / ၇၆ - ၁ (၁၂၁) / ဦး ၆ဖြင့် အောက်ပါအတိုင်း စိစစ်တင်ပြလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်မြေနေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်မှုမရှိပါကြောင်း။

(ခ ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အရေးနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်ပါကြောင်း။

(ဂ ) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာမှန်ကန်မှုရှိပါကြောင်း၊ (အဆိုပါမြေနေရာသည် ကလောမြို့၊ အကွက်အမှတ်(၄၄)၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၁၆+၂၀)၊ မြေဧရိယာ(၂.၈၅၀+၃.၇၈၅ဧက)၊ စုစုပေါင်း(၆.၆၃၅ဧက)ဖြစ်ပြီး ကလောမြို့ မြို့နယ်

နယ်နိမိတ်အတွင်းရှိ အစိုးရမှစီမံခန့်ခွဲနိုင်သောမြေဖြစ်ခြင်း၊ မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန၏ မြေရာဇဝင်မှတ်တမ်းများအရ ကလောဟိုတယ်နှင့်ဝန်ထမ်းအိမ်ယာ အဖြစ် (ယာယီ) သတ်မှတ်ထားပါကြောင်း။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍၂၈-၁-၂၀၁၆ရက်တွင် ကျင်းပပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်းအစည်းအဝေးအမှတ်စဉ်(၃-၁/၂၀၁၆) ဆုံးဖြတ်ချက် အပိုဒ် ၄ ( မ )အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပေးပို့ပါသည်။

၁၆၊၁၊၂၀၁၆

စဝ်အောင်မြတ်
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို

Lighting Specialist Co;Ltd၊ ရန်ကုန်မြို့
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ (ခ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/( ၃၆၇၅ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ ဒီဇင်ဘာလ ၁၇ ရက်

Mg - 1266
21/12

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈ - ၁၂ - ၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ရက - ၄ / မ - ၁၅၀၁ / ၂၀၁၅ (၈၅၇)

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ် နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင် ၊ ရှမ်းပြည်နယ် (တောင်ပိုင်း) ၊ တောင်ကြီးခရိုင် ၊ ကလောမြို့နယ် ၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄ ၊ ခြံအမှတ် ၈၄ / A ၊ (၃) ရပ်ကွက် ၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅) ဧကနှင့် (၂.၈၅) ဧက စုစုပေါင်းမြေ ( ၆.၆၃၅ ) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်း နှင့် ဟိုတယ်ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ကြယ်လေးပွင့် ( အနိမ့်ဆုံးကြယ်သုံးပွင့် ) အဆင့်ရှိ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးဌာနဆိုင်ရာ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ဟိုတယ်ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်မြေထု၊လေထုနှင့်အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ ဟိုတယ်လုပ်ငန်းလည်ပတ်ချိန်၌ ဟိုတယ်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျစွန့်ပစ်ခြင်းမပြုဘဲ ပတ်ဝန်းကျင်ရှိ မြစ် / ချောင်း / အိုင်များအတွင်းသို့ တိုက်ရိုက်စွန့်ပစ်ပါက မြေထု နှင့် ရေထု ညစ်ညမ်းနိုင်ခြင်း၊ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ ဘားမီးဖိုဆောင်မှ ထွက်ရှိလာမည့် အစားအသောက် အညစ်အကြေးများ၊ ပတ်ဝန်းကျင်တွင် ဆွေးမြေ့ရန် အချိန်ကြာမြင့်သည့် ပလတ်စတစ် နှင့် ကျွတ်ကျွတ်အိတ်ကဲ့သို့ အမှိုက်များအား စနစ်တကျ မစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Lighting Specialist Co., Ltd. မှ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်း နှင့် ဟိုတယ်ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ကြယ်လေးပွင့် ( အနိမ့်ဆုံးကြယ်သုံးပွင့် ) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရေးအတွက်စီမံကိန်းဆိုင်ရာ အချက်အလက်များ

ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင် အမြတ်ငွေ၏ ( ၁ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ နှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင်အထည်မဖော်မီ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) လုပ်ငန်းဆောင်ရွက်ရန်နှင့် IEE အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ တင်ပြရန် နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊နည်းဥပဒေ၊လုပ်ထုံး လုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး / ပြည်နယ် အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထား ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

*D:\CD\Lighting Specialist Co., Ltd. (P.S).doc2*



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နောက်ဆက်တွဲ (ယ)

## မြန်မာနိုင်ငံတော်ဗဟိုဘဏ်

VM3-044
7/1.

စာအမှတ်၊ မဗဘ/ဘဏ်စိစစ်/ထွေ(၁၀၆၇/၂၀၁၅)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. က ချေးငွေရယူရန် တင်ပြလာသည့်ကိစ္စ အပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၀၁/၂၀၁၅(၉၅၉)

P7-29
7.1.16

Lighting Specialist Co., Ltd. က ဟိုတယ်နှင့်ခရီးသွားဝန်ကြီးဌာနပိုင် ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား နိုင်ငံတကာအဆင့်မီ ကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်အဖြစ် အဆင့်မြင့်ပြန်လည်မွမ်းမံခြင်းနှင့် ထပ်တိုးတည်ဆောက်ရန်အတွက် စင်ကာပူနိုင်ငံရှိ Galaluz Pte Ltd. ထံမှ ကျပ် ၁၄,၅၀၀,၀၀၀,၀၀၀ ချေးငွေရယူလိုခြင်းကိစ္စအပေါ် မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထားမှတ်ချက်အား အောက်ပါအတိုင်းပြန်ကြားအပ်ပါသည်-

(က) Contract Agreement၊ Clause-4 တွင် purchaser (Lighting Specialist Co., Ltd.) မှ Supplier (Galaluz Pte Ltd.) ထံသို့ ပစ္စည်းဘိုးပေးချေရန်နှင့် Schedule အရ purchaser က အဆိုပါပေးချေမှုကို FAC ထုတ်ပေးပြီး လပေါင်း ၆၀ မှစ၍ ၁၂ လလျှင်တစ်ကြိမ် အမေရိကန်ဒေါ်လာ ၁ သန်းနှုန်းဖြင့် ၁၅ ရစ်ခွဲ၍ အမေရိကန် ဒေါ်လာ ၁၅ သန်းအား ပေးရန်ဖော်ပြထားပြီး Contract Agreement၊ Clause-5 တွင်လည်း ချေးငွေအရင်း အမေရိကန်ဒေါ်လာ ၁၁.၅ သန်းနှင့် ယင်းအပေါ် ၃.၄% အတိုးနှုန်းဖြင့် (တစ်နှစ်လျှင်၊ တစ်လလျှင် စသည်ဖြင့် ဖော်ပြမထားပါ) ကျသင့်အတိုး အမေရိကန်ဒေါ်လာ ၆.၉ သန်း (၂) ရပ်ပေါင်း အမေရိကန်ဒေါ်လာ ၁၈.၄ သန်းအား Purchaser (Lighting Specialist Co., Ltd.) က Supplier (Galaluz Pte Ltd.) ထံသို့ ပေးဆပ်ရန်ဖြစ်ကြောင်း ဖော်ပြထားရာ Purchaser (Lighting Specialist Co., Ltd.) အနေဖြင့် စုစုပေါင်း အမေရိကန်ဒေါ်လာ ၃၃.၄ သန်း ပေးရမည့်သဘော တွေ့ရှိရပါသည်။ ကုမ္ပဏီအနေဖြင့် မည်သည့်ပမာဏမှာ ကုန်ပစ္စည်းဖိုး၊ ယင်းအပေါ် အတိုးနှုန်း တစ်နှစ်လျှင်မည်မျှနှင့် ပြန်လည်ပေးဆပ်ရမည့် Supplier Credit တန်ဖိုး

ပမာဏအမှန်ကို ရှင်းလင်းစွာဖော်ပြ၍ မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ ပြန်လည်တင်ပြရန်ဖြစ်ပါကြောင်း၊

(ခ) မြန်မာနိုင်ငံတော်ဗဟိုဘဏ်အနေဖြင့် ယခုကဲ့သို့မရှင်းလင်းသော terms and conditions များဖြင့်တင်ပြလာသည့် ချေးငွေဖြစ်သဖြင့် ခွင့်ပြုနိုင်ခြင်းမရှိပါကြောင်း။

၃၁/၁၂/၂၀၁၃

ဥက္ကဋ္ဌ(ကိုယ်စား)
(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

မိတ္တူကို

ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ဒုတိယဥက္ကဋ္ဌများ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ဒုတိယညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံခြားသုံးငွေစီမံခန့်ခွဲမှုဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
Lighting Specialist Co., Ltd.



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ အက်ဖ်အီး- ၃၉/ ၅၁

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၀ ရက်

813-534
10/3

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Lighting Specialist Co., Ltd ၏ပြည်ပချေးငွေရယူရန်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈.၁၂.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၀၁/၂၀၁၅(၉၅၉)

(၂) မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ (၃၁.၁၂.၂၀၁၅) ရက်စွဲပါစာ အမှတ်၊ မဗဘ/ဘဏ်စီစစ်/ထွေ(၁၀၆၇/၂၀၁၅)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂.၂.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၀၁/၂၀၁၆(၂၇၁)

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင် ကလောမြို့နယ်ရှိ လက်ရှိ ကလောဟိုတယ်အား အဆင့်မြင့်ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ဆောင်ရန် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် (Lighting Specialist Co., Ltd) နှင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနက MIC သို့ အဆိုပြု တင်ပြရာတွင် Lighting Specialist Co., Ltd က စင်ကာပူနိုင်ငံရှိ Galaluz Pte Ltd ထံမှ ကျပ် (၁၄.၅) ဘီလီယံ ချေးယူလိုခြင်းအပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက် တောင်းခံခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ကုမ္ပဏီ၏ Debt to Equity Ratio မှာ အလွန်ကွာဟလျက်ရှိသောကြောင့် ငွေချေးသူအနေဖြင့် ၎င်းချေးငွေ ပြန်လည်ပေးဆပ်နိုင်ရေးအတွက် ဝင်ငွေရရှိရန် ဆောင်ရွက်မည့်အစီအစဉ်နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြရန် လိုအပ်ပါသည်။

(ခ) ရယူမည့်ချေးငွေသည် Loan-in-Kind (Supplier's Credit) ဖြစ်သော ကြောင့် ထောက်ပံ့မည့်ပစ္စည်းများ၏တန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထား (Valuation Assessment) အား တင်ပြသွားရန် လိုအပ်မည်ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
( ဆက်အောင်၊ ဒုတိယဥက္ကဋ္ဌ )

မိတ္တူကို

ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယဥက္ကဋ္ဌ(၂)၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယညွှန်ကြားရေးမှူးချုပ်၊ ငွေရေးကြေးရေးအဖွဲ့အစည်းများကြပ်မတ်ကွပ်ကဲရေး နှင့် ငွေကြေးခဝါချမှုတိုက်ဖျက်ရေးဌာန

ရုံးလက်ခံ

မျှောစာတွဲ

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

PL-458
2/13

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည်မွမ်းမံပြင်ဆင်ခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ဟိုတယ်နှင့် ခရီးသွားရေးလုပ်ငန်း ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ဥပဒေရှုထောင့် မှ သုံးသပ်ပေးပါရန် တင်ပြခြင်း ကိစ္စ**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A ရှိ မြေဧရိယာ (၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ(၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည် ပြင်ဆင် မွမ်းမံခြင်း နှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၁၀/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံး လျက် Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီး ဌာန ပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေဧရိယာ (၃.၇၈၅) ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့်ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုး တည်ဆောက် ၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (မူကြမ်း)**တို့အား ဥပဒေရှုထောင့်မှ သုံးသပ်ပေးပါရန် ပြုစု တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | 18/3/16 | 18/3/16. | 4/3 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာတို့အား စိစစ်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၁၁၃၅၊

( [illegible] )

ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်မိုးနိုင်

(ခ) **အဘ အမည်** ဦးအောင်နိုင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/အလန(နိုင်) ၀၀၁၀၁၆

(ဃ) **နေရပ်လိပ်စာ** အမှတ်- ၂၀၃၊ ရန်ကင်းစင်တာ၊ YCDC၊ ဆရာစံလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် ငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနပိုင်၊ ဦးပိုင်အမှတ် ၂၀၊ အကွက်အမှတ် ၄၄၊ မြေအမှတ် ၈၄/A၊ ၃ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ ကလောမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)ရှိ မြေဧရိယာ(၃.၇၈၅)ဧက နှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၁၃၀၄.၈၁ သန်း ( အမေရိကန်ဒေါ်လာ ၁၃.၄၈၅ သန်း အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း တစ်ထောင့် သုံးရာ လေးသန်း နှင့် ရှစ်သိန်း တစ်သောင်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ် ၊ ၆ လ

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးကျော်မိုးနိုင်

(ခ) အဘ အမည် ဦးအောင်နိုင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/အလန(နိုင်) ၀၀၁၀၁၆

(ဃ) နေရပ်လိပ်စာ အမှတ်- ၂၀၃၊ ရန်ကင်းစင်တာ၊ YCDC၊ ဆရာစံလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း Lighting Specialist Company Limited ( မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား B.O.T စနစ်ဖြင့် ငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုး တည်ဆောက်၍ နိုင်ငံ တကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနပိုင်၊ ဦးပိုင်အမှတ် ၂၀၊ အကွက်အမှတ် ၄၄၊ မြေအမှတ် ၈၄/A၊ ၃ရပ်ကွက်၊ ကျောက်တိုင်ရပ်၊ တောင်ကြီးခရိုင်၊ ကလော မြို့နယ်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)ရှိ မြေ ဧရိယာ (၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ~~၂၁၃၃.၇၄၇~~ ၂၁၃၀၄.၈၁ သန်း ( အမေရိကန်ဒေါ်လာ ၁၃.၄၈၅ သန်း အပါအဝင် စုစုပေါင်း ကျပ် ~~နှစ်ထောင် တစ်ရာ သုံးဆယ် သုံးသန်း ငါးသောင်း သုံးထောင်~~ တိတိ)

(ဈ) တည်ဆောက်မှုကာလ ၂ နှစ် ၊ ၆ လ

(ည) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၆ (မနသ)
## ၂၀၁၆ ခုနှစ် မတ်လ ရက်

၁။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) သည် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန ပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေဧရိယာ(၃.၇၈၅)ဧကနှင့် (၂.၈၅) ဧက စုစုပေါင်း မြေဧရိယာ (၆.၆၃၅)ဧက တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင်မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏( ၁၀ /၂၀၁၆) ကြိမ်မြောက် အစည်းအဝေး သို့တင်ပြခဲ့ရာ “ခွင့်ပြုမိန့် ထုတ်ပေးရန်”ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇)၊ ပုဒ်မ၁၂ (ခ) အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- /၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Lighting Specialist Company Limited (မီးအလင်းရောင်အထူးပြု ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေအခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေ ခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်း လွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါလုပ်ငန်း

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၄ ရက်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ ချေးငွေပြန်ဆပ်မည့် အစီအစဉ်နှင့် ရယူမည့် ချေးငွေသည် Loan-in-Kind (Supplier's Credit) ဖြစ်သော ထောက်ပံ့မည့် ပစ္စည်းများ၏တန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထား(Valuation Assessment)အား ပြင်ဆင်ပေးပို့ခြင်း**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ မြေအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည် မွမ်းမံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း၏ ချေးငွေရယူခြင်း အပေါ် မြန်မာ နိုင်ငံတော် ဗဟိုဘဏ်သို့ ၂၂-၂-၂၀၁၆ ရက်စွဲပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်။ အလံ "၁"

၂။ ယခုအခါ Lighting Specialist Co., Ltd. မှ မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘော ထား မှတ်ချက်နှင့်အညီ တင်ပြရန်လိုအပ်သည့် ချေးငွေပြန်ဆပ်မည့် အစီအစဉ်နှင့် ရယူမည့် ချေးငွေသည် Loan-in-Kind (Supplier's Credit) ဖြစ်သော ထောက်ပံ့မည့် ပစ္စည်းများ၏ တန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထား (Valuation Assessment) အား ပြုစုပြီးဖြစ်ပါ၍ ၁၁-၁-၂၀၁၆ ရက်စွဲပါစာဖြင့် ပေးပို့လာပါသည်။ အလံ "၂" အလံ "၃"

၃။ သို့ဖြစ်ပါ၍ Lighting Specialist Co., Ltd. မှပေးပို့တင်ပြလာသည့် ချေးငွေ ပြန်ဆပ် မည့် အစီအစဉ်နှင့် ရယူမည့် ချေးငွေသည် Loan-in-Kind (Supplier's Credit) ဖြစ်သော ထောက်ပံ့မည့် ပစ္စည်းများ၏ တန်ဖိုးများ မှန်ကန်သင့်လျော်ကြောင်း အထောက်အထား (Valuation Assessment)အား မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ ပေးပို့မည့် **စာချော** တွင် လက်မှတ်ရေး ထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | 14/3/16 | | |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ ဗဟိုဘဏ်သို့ ပေးပို့မည့်စာအား လက်မှတ်ထိုးပေးပါရန် တင်ပြအပ်ပါသည်။

14.3.16
(ဒေါ်မြမြအောင်)

ညွှန်ကြားရေးမှူး

၅။ ဗဟိုဘဏ်သို့ သဘောထား တင်ပြ တောင်းခံသည့် စာချော အား ...

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| (၅) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။ | |
| (င) Good To Go Travels & Tours Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိနယူးချောင်းသာဟိုတယ်အား အဆင့်မြင့်ပြန်လည်မွမ်းမံပြင်ဆင်ခြင်းနှင့် ဟိုတယ်များ ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိုစွန့်စပ်လျှဉ်း၍-<br>(၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော ငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း) တင်ပြရန်။<br>(၂) လုပ်ငန်းဆောင်ရွက်မည့်မြေနှင့်ပတ်သက်သည့် အထောက်အထား တင်ပြရန်။<br>(၃) ဟိုတယ်တွင်ပါဝင်သည့် အခန်းအမျိုးအစား၊ အရေအတွက် ရှင်းလင်းစွာဖော်ပြရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်း အဝေးသို့ တင်ပြရန်။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့<br>Good To Go Travels & Tour[s] Co., Ltd. |
| (စ) မြန်မာစကိုင်းလွမ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ CMP စနစ် ဖြင့် အထည်ချုပ်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိုစွန့်စပ်လျှဉ်း၍ သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့<br>မြန်မာစကိုင်းလွ[မ်] အင်တာနေရှင်န[ယ်] ကုမ္ပဏီလီမိတက် |
| (ဆ) Sky One Construction Co., Ltd. မှ B.O.T စနစ်ဖြင့် နိုင်ငံပိုင်ငှားရမ်းထားသော ချောင်းသာကမ်းခြေဟိုတယ်(AZURA BEACH RESORT HOTEL) အား အဆင့်မြှင့်တင်၍ ထပ်မံတိုးချဲ့မည့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိုစွန့်စပ်လျှဉ်း၍-<br>(၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသောငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)တင်ပြရန်။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့<br>Sky One Construction Co., Ltd. |

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ခုနှစ် ဒီဇင်ဘာလ ၃ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်များတောင်းခံခြင်းကိစ္စ**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီကြယ်လေးပွင့် (အနိမ့်ဆုံးကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့ရုံး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန နှင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း နှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်တို့ထံသို့ သဘောထားများတောင်းခံမည့် **စာချော** များတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | 3/12/15 | 3/12/15 | 3/12 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၃။ သက်ဆိုင်ရာ ဌာနများသို့ သဘောထား တောင်းခံသည့်စာချောအား တင်ပြအပ်ပါသည်။

3.12.15

( သန်းဝင်းအောင်ဦး )

ညွှန်ကြားရေးမှူး၊

၄။ စာချော [illegible] လက်မှတ် ရေးထိုး[illegible]



အမှတ်(၁)၊ သာဒူလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၀၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၀၁/၂၀၁၅( )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်

သို့

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော်သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၃၃/၂၀၁၁

(၂) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏(၂၃-၁၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၁၈-၀(အုပ်ချုပ်မှု)/နပတ/၃၆၇၅

(၃) Lighting Specialist Co., Ltd ၏ (၂၄-၁၁-၂၀၁၅) ရက်စွဲပါစာ အမှတ်၊ MCR/072/011-15/LSC

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ကြယ်လေးပွင့်(အနိမ့်ဆုံးကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၂)နှင့်(၃)ပါစာများဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇) အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို ကော်မရှင်က စိစစ်ရာတွင် သက်ဆိုင်ရာ ပြည်နယ် / တိုင်းဒေသကြီးအစိုးရတို့၏ သဘောထားကို ရယူရန်လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရတို့၏ ထောက်ခံချက်ကို အထူးအလေးထားစဉ်းစားပါသဖြင့် ဝန်ကြီးချုပ် ကိုယ်တိုင် စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်းချက်(၁)ပါ စာပိုဒ် ၃(စ) တွင် ဖော်ပြထားပါသည်။

၄။ [illegible] ဟိုတယ် လုပ်ငန်း [illegible]များကို အမြန်ဆုံး စိစစ်ပေးရန် [illegible]
[illegible]
မှတ်ချက်အား ရက်သတ္တပတ် တစ်ပတ်အတွင်း ပြန်ကြားပေးနိုင်ပါရန် အဆိုပြုလွှာ (ကော်ပီ)စုံအား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ-မရှိ။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်-မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်းအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ-မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်-မဟုတ်။

(င) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏အကြံပြုချက်။

၅။ Lighting Specialist Co., Ltd. နှင့်ဆက်သွယ်ရန် လိပ်စာမှာ **ဦးလှိုင်ဝင်းကို ၊ ဖုန်းနံပါတ် ၀၉-၅၀၈၈၆၆၃** ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

Lighting Specialist Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

…အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) [illegible]

☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၀၁/၂၀၁၅( ၉၅၇ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏(၂၃-၁၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၁၈-၀(အုပ်ချုပ်မှု)/နပတ/၃၆၇၅

(၂) Lighting Specialist Co., Ltd. ၏ (၂၄-၁၁-၂၀၁၅) ရက်စွဲပါစာအမှတ်၊ MCR/072/011-15/LSC

၁။ Lighting Specialist Co.,Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေပုံ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ကြယ်လေးပွင့်(အနိမ့်ဆုံးကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၁)နှင့်(၂)ပါစာများဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကိုတောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပြုချက်ပါလုပ်ငန်းဆောင်ရွက်မည့်နေရာတွင် Lighting Specialist Co., Ltd. သည် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်)

အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိနှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့်စသည့်အချက်များအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ဦးလှိုင်ဝင်းကို ၊ ဖုန်းနံပါတ် ၀၉-၅၀၈၈၆၆၃** သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်(တစ်) စောင်ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံ အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

Lighting Specialist Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၀၁/၂၀၁၅( ၉၅၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏(၂၃-၁၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၁၈-၈(အုပ်ချုပ်မှု)/နပတ/၃၆၇၅

(၂) Lighting Specialist Co., Ltd. ၏ (၂၄-၁၁-၂၀၁၅) ရက်စွဲပါစာ အမှတ်၊ MCR/072/011-15/LSC

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး ဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက် အမှတ် ၄၄၊ မြေကွက်အမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ကြယ်လေးပွင့်(အနိမ့်ဆုံးကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၁)နှင့်(၂)ပါစာများဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ Lighting Specialist Co., Ltd. သည် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်)အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း လုပ်ကိုင်ခြင်းဆိုင်ရာ ကိစ္စရပ်များအားစိစစ်၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့် နေ့မှ စ၍ **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)နှင့်(၂)စာပါ အဆိုပြုချက်တစ်စုံ နှင့်အတူ Layout Plan, Conceptual Drawing ,Bill of Quantities, Engineering Drawing တို့အား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၃။ Lighting Specialist Co., Ltd. နှင့်ဆက်သွယ်ရန် လိပ်စာမှာ ဦးလှိုင်ဝင်းကို ၊ ဖုန်းနံပါတ် ၀၉-၅၀၈၈၆၆၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

Lighting Specialist Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

[illegible]

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၁၇
☎- ၀၁-၆၅၈၁၂၉

စာအမှတ် ရက- ၄/မ-၁၅၀၀/၂၀၁၅( ၆၅၆ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၈ ရက်

သို့

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏(၂၃-၁၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)/နပတ/၃၆၇၅

(၂) Lighting Specialist Co., Ltd. ၏ (၂၄-၁၁-၂၀၁၅) ရက်စွဲပါစာ အမှတ်၊ MCR/072/011-15/LSC

၁။ Lighting Specialist Co.,Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီကြယ်လေးပွင့်(အနိမ့်ဆုံးကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၁)နှင့်(၂)ပါစာများဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံးစိစစ်ပေးရန် နိုင်ငံတော်သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် Lighting Specialist Co., Ltd. သည် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလော ဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ် ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းနှင့် စပ်လျဉ်း၍ Lighting Specialist Co., Ltd. (Myanmar) မှ Singapore နိုင်ငံရှိ

Datuz P... Ltd. [illegible] ၀၄ [illegible]

[illegible]

(တစ်) စောင်ပူးတွဲပေးပို့လျက် ညှိနှိုင်းဆောင်ရွက်ပေးပါရန် တင်ပြအပ်ပါသည်။

၄။ Lighting Specialist Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ **ဦးလှိုင်ဝင်းကို ၊ ဖုန်းနံပါတ်**
**၀၉-၅၀၈၈၆၆၃** ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

Lighting Specialist Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၃ ရက်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြင့်ပြန်လည်မွမ်းမံပြင်ဆင်ခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ဟိုတယ်နှင့် ခရီးသွားရေးလုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြ လာခြင်းကိစ္စ**

၁။ Lighting Specialist Co., Ltd သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေခွဲအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီကြယ်လေးပွင့် (အနိမ့်ဆုံးကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

၂။ အဆိုပြုတင်ပြလာသည့် ကုမ္ပဏီအား စစ်ဆေးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(signature)
(မြစန္ဒာ)
ညွှန်ကြားရေးမှူး

**ညွှန်ကြားရေးမှူး(ကုမ္ပဏီဌာနခွဲ)**

၃။ (handwritten note)

(signature) ၄.၁၂.၁၅

ညွှန်ကြားရေးမှူး (ရင်းနှီး-၃)

(signature) ၄.၁၂.၁၅ (မြစန္ဒာ)

(signature) ၄.၁၂.၁၅

ISC Kalaw N: INV-3

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂ ရက်

အကြောင်းအရာ။ **Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြင့်ပြန်လည်မွမ်းမံပြင်ဆင်ခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ဟိုတယ်နှင့် ခရီးသွားရေးလုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြ လာခြင်းကိစ္စ**

၁။ Lighting Specialist Co., Ltd. သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ မြေအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြင့် ပြန်လည် မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီကြယ်လေးပွင့် (အနိမ့်ဆုံးကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

၂။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ကျင်းပသော (၄၅/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြမည့် အမှာစာ **(စာချော )တွင်** လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | (signature) 2/12/15 | (signature) 2/12/15 | (signature) 2/12 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

၃။ [illegible handwriting]

LSC Kalaw Ns INV-3

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရကဓ-၄/မ-၁၅၀၁/၂၀၁၅( ၉၄၀ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလော ဟိုတယ်အား အဆင့်မြင့် ပြန်လည်မွမ်းမံပြင်ဆင်ခြင်းနှင့် ဟိုတယ်အား ထပ်တိုး တည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ဟိုတယ်နှင့် ခရီးသွားရေးလုပ်ငန်းဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြ လာခြင်းကိစ္စ

၁။ Lighting Specialist Co., Ltd သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊တောင်ကြီးခရိုင်၊ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊ အကွက်အမှတ် ၄၄၊ ခြံအမှတ်၈၄/A၊ (၃)ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည် မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်မိုးနိုင် မှ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့်စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Lighting Special List Co., Ltd မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံ တကာအဆင့်မီ ကြယ်လေးပွင့် (အနိမ့်ဆုံးကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း အတွက် အဆိုပြုချက် တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ် ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန်ကိစ္စများ၊ လုပ်ထုံးလုပ်နည်း နှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေး နိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(မြစန္ဒာ၊ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

လျှို့ဝှက်

# Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ ကလောဟိုတယ်အား အဆင့်မြင့် ပြန်လည်မွမ်းမံပြင်ဆင်ခြင်း နှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်) အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>လုပ်ငန်းအဆိုပြုသူအမည်<br>အဆိုပြုလုပ်ငန်းအမျိုးအစား | - Lighting Specialist Co., Ltd.<br>- ဦးကျော်မိုးနိုင်(မန်နေးဂျင်းဒါရိုက်တာ)<br>- လက်ရှိကလောဟိုတယ်အား အဆင့်မြင့် ပြန်လည်မွမ်းမံခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ကြယ်လေးပွင့် (အနိမ့်ဆုံး ကြယ်သုံးပွင့်)အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း<br><br>မြေပိုင်ရှင် | - ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊အကွက်အမှတ်၄၄၊ ခြံအမှတ်၈၄/A၊(၃)ရပ်ကွက်၊ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅)ဧကနှင့် (၂.၈၅)ဧက စုစုပေါင်း မြေ (၆.၆၃၅) ဧက<br>- ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန |
| ၃။ | မြေငှားရမ်းခနှုန်းထား | - ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ချုပ်ဆိုခဲ့ပြီးသော မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>- ငှားရမ်းကာလ သက်တမ်းကို စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၁၅)နှစ် သတ်မှတ်ပါသည်။<br>- နှစ်စဉ်မြေငှားရမ်းခအဖြစ် မြေ(၃.၇၈၅)ဧက အတွက် တစ်နှစ်လျှင် ကျသင့်ငွေ ကျပ် ၁၆၀ သန်း ဖြစ်ပါသည်။<br>- နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်ပြည့်လျှင် လုပ်ငန်းဖွံ့ဖြိုးတိုးတက်မှုအတွက် တိုးမြှင့်ရန် ပြန်လည်ညှိနှိုင်းမည်။ |
| ၄။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | - Hotel (see table below) |
| ၅။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၅၀)နှစ်၊ နောက်ထပ် (၁၀)နှစ် (၂)ကြိမ် |
| ၆။ | တည်ဆောက်ရေးကာလ | - (၂) နှစ် ၊ (၆) လ |
| ၇။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု**<br>ငွေပမာဏ<br>စက်ပစ္စည်းကိရိယာများ<br>လုပ်ငန်းသုံးယာဉ်များ<br>ဟိုတယ်အဆောက်အဦများ<br>ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း<br>ဟိုတယ်လုပ်ငန်းသုံးပစ္စည်း | - **ကျပ် ၁၄၈၀၅.၀၁၂ သန်း (US$ ၁၁.၄၈၆ သန်း အပါအဝင်)**<br>- ကျပ် ၁၀၀၀.၀၀ သန်း<br>- US$ ၁.၂၄၈ သန်း<br>- US$ ၀.၄၆၈ သန်း<br>- ကျပ် ၆၅၈.၇၆ သန်း (US$ ၃.၉၆ ၄၅ သန်း အပါအဝင်)<br>- US$ ၅.၂၇၈၆ သန်း<br>- US$ ၀.၅၄၂ သန်း |

- Hotel

| စဉ် | အမျိုးအစား | အခန်းအရေအတွက် | ဝန်ဆောင်ခနှုန်း (တစ်ရက်)US$ |
|---|---|---|---|
| (က) | Suite | ၁၂ | ၉၅ |
| (ခ) | Deluxe | ၆၇ | ၈၅ |
| (ဂ) | Superior | ၁၈ | ၇၅ |
| (ဃ) | Standard | ၅၃ | ၆၅ |
| (င) | Villa | ၅ | ၁၁၀ |
| | စုစုပေါင်း | ၁၅၅ | |

| | | |
|---|---|---|
| ၈။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br>ပြည်ပ | - ၈၉ ဦး<br>- ၇၇ ဦး (တစ်လလျှင် ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ ၊အမြင့်ဆုံးလစာမှာကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ၁၂ ဦး (တစ်လလျှင် ပြည်ပလုပ်သားတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂,၀၀၀,၀၀၀ ၊အမြင့်ဆုံးလစာမှာ ကျပ် ၅,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၉။ | ဝင်ငွေ (၆ နှစ်မြောက်)<br>အသုံးစရိတ် (၆ နှစ်မြောက်)<br>အသားတင်အမြတ် (၆ နှစ်မြောက်) | - ကျပ် ၅၆၅၀.၉၀ သန်း<br>- ကျပ် ၅၈၆၉.၈၅ သန်း<br>- ကျပ် ၇၃၆.၄၁ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့်<br>အကျိုးအမြတ် (၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | <br><br>- ကျပ် ၂၅၄.၄၇ သန်း<br>- ကျပ် ၂၈၂.၅၄ သန်း<br>- ဖော်ပြထားခြင်းမရှိပါ။<br>- ၁၃ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - 315 KVA |
| ၁၂။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထား အဖြစ် Lighting Specialist Co., Ltd.၊ U Kyaw Moe Naing နှင့် Daw Thein Thein Wai အမည်တို့ဖြင့် NAYPYITAW SIBIN BANK (ZABUTHIRI) တွင် (၆-၁-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁,၃၃၈,၈၁၆,၂၁၀.၀၀ ၊ U Kyaw Moe Naing နှင့်Daw Thein Thein Wai အမည်တို့ဖြင့်AYABANK(NAYPYITAW) တွင်(၇-၁-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁,၄၅၅,၁၆၂,၄၁၈.၀၄ ရှိကြောင်း ဖော်ပြထားရာ သုံးစွဲမည့် ကျပ်(၁၃၈၀၅.၀၁၂)သန်း အတွက် ငွေကြေးလုံလောက်မှုရှိကြောင်း တွေ့ရှိရပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထား အဖြစ် Lighting Specialist Co., Ltd. အမည်ဖြင့် MYANMA INVESTMENT AND COMMERCIAL BANK တွင်(၂-၂-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် US$ ၃၃၇၈၄၄.၈၆ ရှိကြောင်း ဖော်ပြထားပါသည်။ |
| ၁၃။ | အခြားတင်ပြချက်များ | (က) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနနှင့် Lighting Specialist Co., Ltd. တို့ ပြင်ဆင် ချုပ်ဆိုမည့်နှစ်ဘက်သဘောတူ စာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) မြေငှားရမ်း သက်တမ်းမှာ ဟိုတယ်လုပ်ငန်း၏ လုပ်ငန်း စတင် လည်ပတ်သည့်ရက်မှ နှစ်၅၀ နှင့် ယင်းသက်တမ်း ကို ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန ၏ သဘောတူညီမှုရယူပြီး ကော်မရှင်၏အတည်ပြုမှုဖြင့် ၁၀ နှစ်စီ နှစ်ကြိမ် တိုးမြှင့်နိုင်သည်။ **အပိုဒ် - ၅(ခ)**<br>(၂) မြေငှားရမ်းခအဖြစ်နှစ်စဥ်ငှားရမ်းခတစ်နှစ်လျှင် ကျပ်(၁၆၀)သန်းကို ပေးသွင်းရမည်။ သတ်မှတ်ထားသော နှစ်စဥ်ငှားရမ်းခ ငွေများကို တစ်နှစ်လျှင် (၄)ကြိမ် ပေးသွင်းရမည်။ **အပိုဒ် - ၆ (ခ)**<br>(၃) မြေအသုံးချမှုပရီမီယံကြေးအဖြစ် ကျပ် သန်း (၅၀) ပေးသွင်းမည် ဖြစ်ပြီး-<br>(က) BOT စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၁)လအတွင်း ပထမ အကြိမ် (၅၀%) |

| | | |
|---|---|---|
| | | (ခ) BOT စာချုပ်ချုပ်ဆိုပြီးနေ့မှ (၁)နှစ်အတွင်း (၅၀%)အား လည်းကောင်း<br>(ဂ) မြေအသုံးချမှု ပရီမီယံကို အထက်ပါသဘောတူညီချက်အတိုင်း အချိန်မှီ ပေးချေခြင်း မပြုပါက ကျော်လွန်သည့် တစ်ရက်လျှင် ပေးချေရမည့် ငွေ၏ ( %) နှင့် ညီမျှသော ငွေကို ဒဏ်ကြေးအဖြစ် အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။<br>(၄) နှစ်စဉ် မြေငှားရမ်းခ နှုန်းထားကို (၄)နှစ်တစ်ကြိမ် နှစ်ဖက် ပြန်လည်ညှိနှိုင်း သုံးသပ်၍ ငှားရမ်းခ ထပ်မံတိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်သည့်နှုန်းသည် မူလ ငှားရမ်းခ၏ ၁၀ ရာခိုင်နှုန်း ထက်မပိုရ။ **အပိုဒ် - ၆(ဆ)**<br>(၅) အငှားချထားခြင်းခံရသူသည် စာချုပ် သက်တမ်းတိုးမြှင့်လိုပါက ကနဦး သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၃)လ ကြိုတင်၍ အငှားချ ထားသူသို့စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦး (၅ဂ)နှစ် ငှားရမ်းပြီး နှစ်ဖက် သဘောတူညီချက် ရရှိပြီးပါက တစ်ကြိမ်လျှင် (၁ဂ)နှစ် ဖြင့် သက်တမ်း(၂)ကြိမ်အထိ စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။ သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရမှသာ အတည်ဖြစ်စေရမည်။ **အပိုဒ် - ၁၀(ခ)**<br>- ကုမ္ပဏီမှ အဆောက်အဦ တည်ဆောက်မည့် ဒီဇိုင်းနှင့် တည်နေရာပြမြေပုံတင်ပြထားပါသည်။ |
| ၁၄။ | စိစစ်တင်ပြချက်များ | - အဆိုပြုမြေနေရာမှာ (၆.၆၃၅)ဧကဟု ဖော်ပြထားပြီး (၃.၇၈၅)ဧကအတွက် မြေစာရင်းပုံ ၁၀၅/၁၀၆ သာတင်ပြထားပြီး၊ (၂.၈၅)ဧကအတွက် မြေအသုံးခွင့်အား လျှောက်ထားဆဲဖြစ်ကြောင်း တွေ့ရှိရပါသည်။<br>- မြေငှားရမ်းခြင်း စာချုပ်မှာ B.O.T စနစ်ဖြင့် (သို့မဟုတ်) နှစ်ရှည်မြေငှားခြင်း စနစ်ဖြင့် တိကျစွာ ဖော်ပြပေးရန် လိုအပ်ပါသည်။<br>- ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန နှင့် Lighting Specialist Co., Ltd. တို့သည် မြေငှားရမ်းခြင်းနှင့် ကလောဟိုတယ်ငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်အား ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ငှားရမ်းကာလ (၁၅)နှစ်ဖြင့် ချုပ်ဆိုခဲ့ပြီး ဖြစ်ပါသည်။<br>- ပြင်ဆင်ချုပ်ဆိုမည့် မြေငှားရမ်းခြင်းနှင့် ဟိုတယ်လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ခြင်းဆိုင်ရာ သဘောတူ စာချုပ်တွင် ပြည်ထောင်စု ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်ပါဝင်ခြင်း မရှိသည့်အတွက် ပြည်ထောင်စု ရှေ့နေချုပ်ရုံး သဘောထားတင်ပြရန် လိုအပ်ပါသည်။<br>- ပြင်ဆင်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)တွင် ဖော်ပြထားချက်အရ LUP ကြေးပေးသွင်းရမည့် နှုန်းအပေါ် ဒဏ်ကြေးသတ်မှတ်ချက် ဖော်ပြထားခြင်း မရှိပါ။<br>- ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီး ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ Lighting Specialist Co., Ltd. (Myanmar) မှ Singapore နိုင်ငံရှိ Galaluz Pte Ltd. မှ ချေးငွေကျပ် ၁၄,၅၀ပ,၀၀၀,၀၀၀ ကို ချေးယူပြီး ချေးငွေစာချုပ်အရ (၁၇)နှစ်အရစ်ကျငွေချေးယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ချေးငွေအား အရစ်ကျ ပြန်ဆပ်မည့် အစီအစဉ်နှင့် Lighting Specialist Co., Ltd. (Myanmar) မှ Singapore နိုင်ငံရှိ Galaluz Pte Ltd.တို့ ချုပ်ဆိုမည့် ချေးငွေစာချုပ် (မူကြမ်း)အား တင်ပြထားပါသည်။ |
| | | - ချေးငွေပြန်ဆပ်မည့် ကာလမှာ ၅ နှစ်ထက် ပိုနေပါသဖြင့် ပြင်ဆင်ရန် လိုအပ်ပြီး အတိုးနှုန်းမှာ ၃.၄ % ဖြစ်ပါသည်။<br>- Car Parking ထားရှိမှု အခြေအနေမှာ ကားအစီးရေ (၅၀)စီး ရပ်နားနိုင်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | သဘောထားမှတ်ချက်တောင်းခံမည့် ဌာနများ | - ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းနှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်တို့သို့သဘောထား မှတ်ချက်များ တောင်းခံမည် ဖြစ်ပါသည်။ |





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။
ဖက်(စ်) ၀၁-၆၅၈၁၂၈
ဖုန်း ၀၁-၆၅၈၁၃၇


စာအမှတ်၊ ရက-၄/မ- အထွေထွေ/၂၀၁၅(၈၇၉)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၆ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

အကြောင်းအရာ။ **နိုင်ငံပိုင်ငှားရမ်းထားသော လုပ်ငန်းဆောင်ရွက်နေသည့် နယူးချောင်းသာ ဟိုတယ်နှင့် ကလောဟိုတယ်တို့ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက်။ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန ၏ (၁၂-၁၀-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ (အုပ်ချုပ်မှု)/ နပတ/ ၃၃၁၄

၁။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနထံမှ လက်ရှိ ငှားရမ်းဆောင်ရွက်လျက်ရှိသော ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်အနောက်မြို့နယ် ချောင်းသာကမ်းခြေရှိ နယူးချောင်းသာဟိုတယ်နှင့် ရှမ်းပြည်နယ် ကလောမြို့ရှိ ကလောဟိုတယ်တို့အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ နှစ်ရှည် ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းပါ စာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါ တင်ပြချက်နှင့် စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြလမ်းညွှန်မှုခံယူခဲ့ရာ အဆိုပါ အစည်းအဝေးမှ "နယူးချောင်းသာ ဟိုတယ်နှင့် ကလောဟိုတယ်တို့အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ရှည်ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန်နှင့် ကုမ္ပဏီများမှ အဆိုပြုချက်များ တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ ကော်မရှင်၏ ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် အစည်းအဝေး ဆုံးဖြတ်ချက်နှင့် အညီ အဆိုပြုချက်များပြုစု၍ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
နယူးချောင်းသာဟိုတယ်
Good to Go Travel & Tours Co., Ltd.





VM3 - 7009
14/10

DG 9
14/10/15

NPT. 4750
13.10.15

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-ဂ (အုပ်ချုပ်မှု) / နပတ/ ၃၃၁၄
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာ ။ ၁၂ ။ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နိုင်ငံပိုင်ငှားရမ်းထားသော ကလောဟိုတယ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ။**

ရည် ညွှန်း ချက်။ (၁)ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ (၃၀-၆-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)နပတ/၂၁၁၄

(၂)ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ (၁၇-၈-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ၂၁-ခ (ဘဏ္ဍာရေး) နပတ/၂၄၄

၁။ မြန်မာနိုင်ငံသို့လာရောက်လည်ပတ်သည့်ကမ္ဘာလှည့်ခရီးသည်များ တစ်နှစ်ထက်တစ်နှစ် တိုးတက်များပြားလာသည်နှင့်အမျှ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းများသည်လည်း အရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်လျှက်ရှိပါသည်။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနအနေဖြင့် ပြောင်းလဲလာသော စီးပွားရေးစနစ်နှင့်အညီ ပုဂ္ဂလိကကဏ္ဍဖွံ့ဖြိုးတိုးတက်စေရေးအတွက် နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်၊ ခန်းမနှင့် အဆောက်အဦ (၂၃) လုံးကို ၁၉၉၄ ခုနှစ်မှစတင်၍ မြန်မာနိုင်ငံသား ပုဂ္ဂလိကလုပ်ငန်းရှင်အသီးသီးသို့ နှစ်ကာလအလိုက်နှစ်ဖက်သဘောတူစာချုပ်ဖြင့် ငှားရမ်းလုပ်ကိုင် ခွင့်ပြုလျှက် ရှိပါသည်။ (နောက်ဆက်တွဲ-က)

၂။ ဤသို့ဆောင်ရွက်ရာတွင် လက်ရှိငှားရမ်းလုပ်ကိုင်သူ ပုဂ္ဂလိကလုပ်ငန်းရှင်များမှမိမိတို့ ၏လုပ်ငန်းများကို ကာလရှည်ရင်းနှီးမြှုပ်နှံဆောင်ရွက်နိုင်ရေး၊ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်

အညီဆောင်ရွက်ခွင့်ပြုရေးတို့အတွက် စီးပွားရေးဖိုရမ်များတွင် တင်ပြလေ့ရှိရာ ဤဝန်ကြီးဌာန အနေဖြင့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ ရည်ညွှန်း(၁) ပါစာဖြင့် တင်ပြ ပေးခဲ့ပါသည်။ ကော်မတီမှ ငှားရမ်းသက်တမ်းပေါ်အခြေခံ၍ မိမိဝန်ကြီးဌာန၊ အလုပ်အမှုဆောင် ကော်မတီအစည်းအဝေးဆုံးဖြတ်ချက်ဖြင့်ဆောင်ရွက်ခြင်း၊ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး သို့တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်ခြင်းနှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့သို့တင်ပြခွင့်ပြု ချက်ရယူ ဆောင်ရွက်ခြင်းတို့ဖြင့် ဆောင်ရွက်ရန်ဆုံးဖြတ်ခဲ့ပါသည်။ (နောက်ဆက်တွဲ-ခ)

၃။ အဆိုပါဆုံးဖြတ်ချက်နှင့်အညီ နိုင်ငံပိုင်ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့် စားသောက် ခန်းမကိုလက်ရှိ ငှားရမ်းဆောင်ရွက်လျက်ရှိသော ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ နှစ်ရှည်ငှားရမ်း လုပ်ကိုင်ခွင့်ပြုမည်ဆိုပါက လက်ရှိငှားရမ်းလုပ်ကိုင်နေသည့် ပုဂ္ဂလိကလုပ်ငန်းရှင်များထံမှမြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ အဆိုပြုချက်တို့ကို ပြည့်စုံစွာ တင်ပြစေပြီးဤဝန်ကြီးဌာနမှ စိစစ်၍ အလုပ်အမှုဆောင်ကော်မတီ၏အဆုံးအဖြတ်ရယူကာ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြနိုင်ရေး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် တင်ပြထားပါသည်။

(နောက်ဆက်တွဲ-ဂ)

၄။ ယခုအခါတွင် ကလောမြို့၊ (၃)ရပ်ကွက်၊ ခြံအမှတ် (၈၄/အေ) ရှိ မြေဧရိယာ ၃.၇၈၅ ဧက ပေါ်တွင် လက်ရှိအခန်း (၄၅) ခန်းပါ ကလောဟိုတယ်ကို မြေအသုံးချခကျပ်သန်း(၅၀)၊ နှစ်စဉ်မြေ ငှားရမ်းခတစ်နှစ်လျှင်ကျပ်သန်း(၁၆၀) ပေးသွင်းပြီးကျပ်သန်း(၂၀၅၀၀)ထပ်မံရင်းနှီးမြှုပ်နှံ၍လက်ရှိ အခန်းများကိုအဆင့်မြှင့်ခြင်း၊အခန်း (၁၀၅)ခန်း တိုးချဲ့တည်ဆောက်ခြင်းများကို မြန်မာ နိုင်ငံသား များရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီကနဦးနှစ်(၅၀) နှင့် တစ်ဆက်တည်း သက်တမ်းတိုးခွင့်(၁၀)နှစ် နှစ် ကြိမ်ဖြင့်နှစ်ရှည်ငှားရမ်းဆောင်ရွက်လိုပါကြောင်း၊လက်ရှိငှားရမ်းဆောင်ရွက်နေသောဦးကျော်မိုးနိုင် (Lighting Specialist Co., Ltd)မှ အဆိုပြုတင်ပြလာပါသည်။ (နောက်ဆက်တွဲ-ဃ)

၅။ ဦးကျော်မိုးနိုင်၏ အဆိုပြုတင်ပြချက်အပေါ်တွင် ဤဝန်ကြီးဌာနအနေဖြင့် အောက်ပါ အတိုင်းသုံးသပ်တင်ပြအပ်ပါသည်-

(က) ခရီးသွားလုပ်ငန်းကဏ္ဍအရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်လာမှုနှင့်အတူစီးပွားရေး

လုပ်ငန်းရှင်များသည် ကိုယ်ပိုင်ဟိုတယ်များကို အပြိုင်အဆိုင်ဆောက်လုပ်လာကြသဖြင့် ပုဂ္ဂလိကပိုင်ဟိုတယ်များသည် သစ်လွင်တောက်ပနေပြီး နိုင်ငံပိုင်ဟိုတယ်များမှာမူ ငှာရမ်းကာလ တိုတောင်းသဖြင့် ငှားရမ်းဆောင်ရွက်လုပ်ကိုင်သူများမှ ဟိုတယ်ကိုအကြီးစားပြင်ဆင်လုပ်ကိုင်မှုနည်းပါးခြင်းတို့ကြောင့် နိုင်ငံပိုင်ဟိုတယ်များ၏ သစ်လွင်တောက်ပမှု အထောက်အကူပြုပစ္စည်းသုံးစွဲမှုနှင့် ဝန်ဆောင်မှုစွမ်းရည်ပြည့်ဝမှုအပိုင်းတွင် အားနည်းလျှက်ရှိကြောင်း တွေ့ရှိရပါသည်။ ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ငှားရမ်းထားသည့်နိုင်ငံပိုင်ဟိုတယ်၊ မိုတယ်များနှင့် အဆင့် မြင့်စားသောက်ခန်းမကိုနှစ်ရှည်ငှားရမ်းလုပ်ကိုင်နိုင်ရန်ငှားရမ်းကာလကို နှစ်ရှည်ငှားရမ်းလုပ်ကိုင်ခွင့်ပြုလိုက်ပါက ပုဂ္ဂလိကလုပ်ငန်းရှင်များသည် ရင်းနှီးမြှုပ်နှံမှုများ ပိုမိုတိုးချဲ့ဆောင်ရွက်လာမည်ဖြစ်၍ နိုင်ငံပိုင်ဟိုတယ်များသည် ပုဂ္ဂလိကဟိုတယ်များနှင့် ရင်ပေါင်တန်းနိုင်ပြီး ဟိုတယ်လုပ်ငန်းကို တိုးချဲ့လုပ်ကိုင်ခြင်းဖြင့် ပြည်သူတို့အတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုပေါ်ပေါက်လာနိုင်မည်ဖြစ်ပါသည်။

(ခ) အဆိုပြုတင်ပြလာသော နှစ်စဉ်မြေငှားရမ်းခသည် ကျပ်သန်း (၁၆၈) ဖြစ်ပါသည်။ ယင်းနှုန်းသည်လက်ရှိကာလတိုငှားရမ်းထားသောနှုန်းဖြစ်ပြီးအဆိုပါနှုန်းသည်ဒေသအခြေအနေပေါ်မူတည်သတ်မှတ်ခဲ့ခြင်းမဟုတ်ဘဲအိတ်ဖွင့်တင်ဒါစနစ်ဖြင့်ယှဉ်ပြိုင်ရွေးချယ်သတ်မှတ်သောနှုန်းဖြစ်ပါသဖြင့်သင့်လျော်သောနှုန်းထားဖြစ်ပါသည်။

(ဂ) ကုမ္ပဏီမှ မြေအသုံးချခနှင့်စပ်လျဉ်း၍ ကျပ်သန်း (၅၀) ကို တစ်လုံးတစ်ခဲတည်းပေးသွင်းမည်ဖြစ်ပါသည်။ အဆိုပါတန်ဖိုးနှင့်အတူလုပ်ငန်းရှင်အနေဖြင့်ဟိုတယ်တွင် ကျပ်သန်း (၂၀၅၀၀) ထပ်မံ ရင်းနှီးမြှုပ်နှံဆောင်ရွက်မည်ဖြစ်သည့် အတွက်တင်ပြပါမြေအသုံးချခသည်လည်း လျော်ကန်မှုရှိပါသည်။

(ဃ) ငှားရမ်းမည့်ကာလအနေဖြင့် ၎င်းတို့မူလစတင်ငှားရမ်းသောနေ့(၁၁-၁၂-၂၀၁၄) မှစတင်၍ငှားရမ်းကာလကိုသတ်မှတ်ရေတွက်သွား မည်ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခနှုန်းထားအား(၄) နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်တိုးမြှင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(င ) ယခုအဆိုပြုတင်ပြလာသည့်ကလောဟိုတယ်အနေဖြင့်ဤဝန်ကြီးဌာနသို့ပေးဆောင်ရန်နှစ်စဉ်မြေငှားရမ်းခကြွေးကျန်နှင့်အခြားဌာနများသို့ပေးဆောင်ရမည့်အခွန်အခကြွေးကျန်များမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ ယခုတင်ပြလာသည့်ကလောဟိုတယ်အားမြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေပါငှားရမ်းကာလနှစ် (၅၀+၁၀+၁၀) ငှားရမ်းခွင့်ပြုမည်ဆိုပါ က ဤဝန်ကြီးဌာနနှင့် ငှားရမ်းလုပ်ကိုင်သူတို့အကြားရေးထိုးမည့် Build, Operate and Transfer (BOT) စာချုပ်များကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေဆိုင်ရာ အကြံပြုချက်များနှင့်အညီ ပြုစု၍ ချုပ်ဆိုဆောင်ရွက်သွားပါမည်။

၇။ သို့ဖြစ်ပါ၍နိုင်ငံသားပုဂ္ဂလိကလုပ်ငန်းရှင်များအပါအဝင်ပြည်သူများအနေဖြင့်နိုင်ငံတော်အစိုးရ၏အချိန်နှင့်အမျှပြုပြင်ပြောင်းလဲဆောင်ရွက်ပေးမှုကိုပွင့်လင်းမြင်သာစွာတွေ့ရှိနိုင်ရေး၊နိုင်ငံပိုင် ဟိုတယ်များအဆင့်အတန်းမြင့်မားလာရေး၊ နှစ်ကာလကြာမြင့်စွာ ဆက်လက်တည်ရှိနိုင်ရေး၊ ပုဂ္ဂလိကလုပ်ငန်းရှင်များလုပ်ငန်းဆောင်ရွက်မှုပိုမိုအဆင်ပြေချောမွေ့စေရေးအတွက်ကလောဟိုတယ်ကိုမြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊နည်းဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီငှားရမ်းလုပ်ကိုင်ခွင့်ပြုနိုင်ပါရန်တင်ပြအပ်ပါသည်။

၂၂.၁၀.၂၀၁၅

(ဦးဌေးအောင်)

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ

မျှော

# နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်ခန်းမနှင့် အဆောက်အဦစာရင်း

(နောက်ဆက်တွဲ-က)

| စဉ် | ဟိုတယ်/မိုတယ် | အခန်းအရေအတွက် | တစ်နှစ်ငှားရမ်းခ (ကျပ်သန်း) | ငှားရမ်းသည့်နှစ် | ငှားရမ်းသက်တမ်း | ငှားရမ်းသူအမည်/ကုမ္ပဏီ |
|---|---|---|---|---|---|---|
| ၁ | လက်ခုပ်ကုန်းဟိုတယ် | ၃၀ | ၂၀ | ၁-၁၀-၂၀၁၂မှ ၃၀-၉-၂၀၁၇ | ၅နှစ် | ဦးငွေအောင်09-5053820,019010065 The National Travels & Tours Co.Ltd |
| ၂ | ကျိုက်ထိုဟိုတယ် | ၁၄၉ | ၁၈၀၅ | ၁-၁၀-၂၀၁၂မှ ၃၀-၉-၂၀၂၇ | ၁၅နှစ် | ဦးဝင်းနိုင်09-8723274,01-536003 Asia Rising Star Travels & Tours Co.Ltd |
| ၃ | Imperial jade hotel | ၄၀ | ၅၃၀ | ၁-၁၀-၂၀၁၂မှ၃၀-၉-၂၀၂၇ | ၁၅နှစ် | ဒေါ်ခင်ပြုံးရီ01-393112,01-372299, ချိုဇော်ဆောက်လုပ်ရေးနှင့်အင်းလေးဗျူး Co.Ltd |
| ၄ | ကျိုင်းတုံဟိုတယ်(ဟောင်း) | ၂၄ | ၆၀ | ၁-၄-၂၀၁၄မှ ၃၁-၃-၂၀၂၉ | ၁၅နှစ် | ဒေါက်တာဖုန်းမြင့်09,5067333,084-21323 စိန်မြင့်မိုရ်ခရီးသွားကုမ္ပဏီလီမိတက် |
| ၅ | မြမန္တလာဟိုတယ် | ၄၂ | ၂၀ | ၁-၄-၁၉၉၉မှ ၃၁-၃-၂၀၁၉ | ၂၀နှစ် | ဦးမြင့်လွင် 02-30009 တာမိုးညဲ |
| ၆ | မိတ္ထီလာဟိုတယ် | ၃၄ | ၂၀ | ၁-၄-၂၀၀၅ မှ ၃၁-၃-၂၀၂၀ | ၁၅နှစ် | ဦးသိန်းသန်း 02-39991, 39990 Diamond Palace Co.Ltd |
| ၇ | တောင်ငူဟိုတယ် | ၁၈ | ၇၂ | ၁-၁-၂၀၁၄ မှ ၃၁-၁၂-၂၀၂၈ | ၁၅နှစ် | ဦးအောင်မြင် 09-49329555, 054-23414 Global Grace Travels |
| ၈ | သရပါဟိုတယ် | ၈၆ | ၇၅ | ၁၄-၉-၂၀၀၂ မှ ၁၃-၉-၂၀၂၂ | ၂၀နှစ် | ဦးကျော်စိန် 01-377830,377956 Kappa International Co.Ltd |
| ၉ | ချောင်းသာကမ်းခြေဟိုတယ် | ၈၈ | ၁၀၄၀ | ၁၄-၁၀-၁၄ မှ ၁၃-၁၀-၂၉ | ၁၅နှစ် | ဦးမောင်မောင်နိုင် 09-5014159 Sky One Construction |
| ၁၀ | ပုဂံ-သံတဲဟိုတယ် | ၉၂ | ၁၀၀ | ၁၂-၈-၁၉၉၄ မှ ၁၁-၈-၂၀၂၄ | ၃၀နှစ် | ဦးသန်းဇော်ရွှေ 061-60025,01-546225 |
| ၁၁ | ကျိုင်းတုံဟိုတယ်(သစ်) | ၁၀၈ | ၁၈၅ | ၁-၇-၂၀၁၅ မှ ၃၀-၆-၂၀၃၀ | ၁၅နှစ် | ဦးအောင်မျိုးမင်းဒင် ၊ 09-5199150(မဒူ) Adventure Myanmar Intensive Travels & Tours |
| ၁၂ | မြောက်ဦးဟိုတယ် | ၂၄ | ၁၆၆.၅ | ၁-၇-၂၀၁၃ မှ၃၀-၆-၂၀၂၈ | ၁၅နှစ် | ဦးရဲထွန်းကျော် 09-73239000, 043-50200 Natural Force Co.Ltd |

# နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်၊ခန်းမနှင့် အဆောက်အဦစာရင်း

| စဉ် | ဟိုတယ်/မိုတယ် | အခန်း အရေ အတွက် | တစ်နှစ် ငှားရမ်းခ (ကျပ်သန်း) | ငှားရမ်းသည့်နှစ် | ငှားရမ်း သက် တမ်း | ငှားရမ်းသူအမည်/ကုမ္ပဏီ |
|---|---|---|---|---|---|---|
| ၁၃ | ဂန္ဓာမြိုင်ဟိုတယ် | ၅ | ၁၂၀ | ၁-၇-၂၀၁၃ မှ ၃၀-၆-၂၀၂၈ | ၁၅နှစ် | ဦးထွန်းထွန်းဝင်း 09-5013355,085-22007 မလိခအော်တိုမိုဘိုင်းလ်Co Ltd |
| ၁၄ | နန်းမြိုင်ဟိုတယ် | ၃၂ | ၆၀၀ | ၆-၈-၂၀၁၃ မှ ၅-၈-၂၀၂၈ | ၁၅နှစ် | ဦးအောင်စိန် 09-5053820,01-399930 The National Trading Co.Ltd |
| ၁၅ | နယူးချောင်းသာဟိုတယ် | ၂၇ | ၄၂၀ | ၁၀-၁၁-၁၃ မှ ၉-၁၁-၂၈ | ၁၅နှစ် | ဦးဇင်မင်းမောင်မောင် 09-5167291,09-2002231 Good To Go Travels & Tours |
| ၁၆ | သီရိမြိုင်ဟိုတယ် | ၇ | ၂၀၀ | ၁၅-၁၁-၁၃ မှ ၁၄-၁၁-၂၈ | ၁၅နှစ် | ဒေါ်ယဉ်မင်းချို085-22047,012301076 |
| ၁၇။ | ကလေးဟိုတယ် | ၄၅ | ၁၆၀ | ၁၁-၁၂-၂၀၁၄ မှ ၁၀-၁၂-၂၀၂၉ | ၁၅ နှစ် | ဦးကျော်မိုးနိုင်09-5500205,081-50191 Lighting Specialist Co.,Ltd |
| ၂။ | ပင်းတယဟိုတယ် | ၃၃ | ၃၁ | ၁၀-၁၂-၂၀၁၄ မှ ၉-၁၂-၂၀၂၉ | ၁၅ နှစ် | ဦးဟန်ပိုင် 095059495,01580186 |
| ၁၉။ | ဝန်ဇင်းဟိုတယ် | ၃၀ | ၆၃ | ၁၀-၁၂-၂၀၁၄ မှ ၉-၁၂-၂၀၂၉ | ၁၅ နှစ် | ဦးစိုးအောင် 09-5507002,019190496 ပန်းလေပြေဟိုတယ်(ပုဂံ) |
| ၂၀။ | ကော့သောင်းမိုတယ် | ၅၄ | ၃၅ | ၁၁-၁၂-၂၀၁၄ မှ ၁၀-၁၂-၂၀၂၉ | ၁၅ နှစ် | ဦးတင်မိုးနိုင် 09-5009575 ယွန်းနဒီကုမ္ပဏီလီမိတက် |
| ၂၁။ | ကရဝိတ်ခန်းမ | - | ၃၅ | ၁-၅-၁၉၉၉ မှ ၃၀-၄-၂၀၁၉ | ၂၀ နှစ် | ဒေါက်တာခင်ရွှေ 01-295744 ဇေကမ္ဘာကုမ္ပဏီလီမိတက် |
| ၂၂။ | Myanmar Shopping Mall | - | ၄၅၀ | ၃၁-၁-၂၀၁၄ မှ ၃၀-၁-၂၀၂၉ | ၁၅ နှစ် | ဦးနေမင်းမျိုးသိန်း 01-221789, 225258,221789 Lion Myanmar International Co,ltd |
| ၂၃။ | Panorama Hotel | ၈၈ | ၅၀ | ၁-၁-၁၉၉၈ မှ ၃၁-၁၂-၂၀၂၈ | ၃၀ နှစ် | ဦးရန်ဝင်း၊ ရန်ကုန်စင်ဒီကိတ်ကုမ္ပဏီလီမိတက် 01-253077 |

(နောက်ဆက်တွဲ-ခ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
သမ္မတရုံးဝန်ကြီးဌာန(၃)

စာအမှတ်၊ ၁၄ ( ၁၃ ) / ၀၄ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၀ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ (၁၃ / ၂၀၁၅ )၏ မှတ်တမ်း ကောက်နုတ်ချက် တင်ပြခြင်းကိစ္စ

၁။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီအစည်းအဝေး ( ၁၃ / ၂၀၁၅ ) ကို ၉ - ၇ - ၂၀၁၅ ရက်နေ့ ( ကြာသပတေးနေ့ ) တွင် သမ္မတရုံးဝန်ကြီးဌာန ( ၃ )၊ ရုံးအမှတ်( ၁၄ ) အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါပေးပို့အပ်ပါသည်။ 

ဉက္ကဋ္ဌ
ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ

မိတ္တူကို
- နိုင်ငံတော်သမ္မတရုံး
- ပြည်ထဲရေးဝန်ကြီးဌာန
- ကာကွယ်ရေးဝန်ကြီးဌာန
- နယ်စပ်ရေးရာဝန်ကြီးဌာန
- နိုင်ငံခြားရေးဝန်ကြီးဌာန
- လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
- မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

| စဉ် | တင်ပြသည့်ဝန်ကြီးဌာန | အကြောင်းအရာ | ဆုံးဖြတ်ချက် |
|---|---|---|---|
| ၈၂။ | ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာစံ မြို့နယ်၊ ပြည်ကြီးမျက်ရှင် ရပ်ကွက်၊ မြေကွက်အမှတ် (၄၁၄)၊ ဦးပိုင် (၁၂)ရှိ မြေဧရိယာ (၀.၃၃) ဧက အမည်ပေါက် မြေနေရာနှင့် နှစ် (၃၀) ငှားရမ်းမှုရင်းအား မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီသို့ လွှဲပြောင်းပေးနိုင်ရေးအတွက် နိုင်ငံတော်သို့ ပြန်လည်အပ်နှံခွင့်ပြုပါရန် တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ ခွင့်ပြုပါ ကပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၈၃။ | ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | ဟိုတယ်၊ မိုတယ်၊ ခန်းမအဆောက်အဦ ငှားရမ်းခြင်းတို့နှင့်ပတ်သက်၍ ငှားရမ်းသက်တမ်းကာလ တိုးမြှင့်သတ်မှတ်နိုင်ပါရန် တင်ပြခြင်း။ | ငှားရမ်းသက်တမ်းအလိုက် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် လိုပါမည်။ |
| ၈၄။ | ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | ဌာနပိုင်ငှားရမ်းဟိုတယ်၊ မိုတယ်၊ ခန်းမ၊ အဆောက်အဦနှင့်မြေတို့အား ဒဏ်ကြေးများ ဖြေလျှော့ပေးရန်ကိစ္စ တင်ပြခြင်း။ | ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းပြီး ပြန်လည်တင်ပြသွားရန်။ |
| ၈၅။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် | CKD ၊ SKD စနစ်၏ အဓိပ္ပါယ်ဖွင့်ဆိုချက်များနှင့် SKD စနစ်တွင် အနည်းဆုံးပါဝင်သင့်သည့်အမျိုးအစား အုပ်စုအလိုက် အစိတ်အပိုင်းများ၏ သတ်မှတ်ချက်များ တင်ပြခြင်း။ | မှတ်တမ်းတင်ရန်။ |

(နောက်ဆက်တွဲ-ဂ)






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂၁-ခ(ဘဏ္ဍာရေး)/နပတ/ ၂၄၄
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ် လ ၁၇ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့်စားသောက်ခန်းမကို နှစ်ရှည်ငှားရမ်းလုပ်ကိုင်ခွင့်ပြုပါရန်တင်ပြခြင်း**

ရည်ညွှန်းချက် ။ (၁) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ၃၀-၆-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)/နပတ/၂၁၁၄

(၂) ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီမှ ၉-၇-၂၀၁၅ နေ့တွင် ပြုလုပ်သည့် အစည်းအဝေး ၁၃/၂၀၁၅ မှ ကောက်နုတ်ချက်

၁။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန ၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာနပိုင် ဟိုတယ် ၊ မိုတယ်(၂၁) လုံးနှင့် အဆင့်မြင့် စားသောက်ခန်းမ(ကရဝိတ်) တို့ကို နိုင်ငံသား ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ ငှားရမ်းခြင်းဆိုင်ရာ နှစ်ဖက်သဘောတူစာချုပ်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားရာ ငှားရမ်းကာလမှာ အနည်းဆုံး (၅) နှစ်မှ အများဆုံး (၃၀) နှစ်အထိ ဖြစ်ပြီး ဟိုတယ်အများစု၏ ငှားရမ်းကာလကို (၁၅) နှစ် ခွင့်ပြုပေးခဲ့ပါသည်။

၂။ ဌာနပိုင် ဟိုတယ်များကို ယခင်နှစ်အဆက်ဆက်မှ ငှားရမ်းခဲ့ပြီး ငှားရမ်းသက်တမ်း မပြည့်သေးသဖြင့် ဆက်လက်ငှားရမ်းထားသည့် ဟိုတယ် (၅)လုံးနှင့် ငှားရမ်းသက်တမ်း ပြည့်သွားသဖြင့် ကြမ်းခင်းဈေးသတ်မှတ်ပေးပြီး တင်ဒါခေါ်ယူ၍ ထပ်မံငှားရမ်းထားသည့် ဟိုတယ် ၊ မိုတယ် (၁၆) လုံး ၊ စုစုပေါင်း ငှားရမ်းဟိုတယ်၊ မိုတယ် (၂၁) လုံးရှိပါသည်။ ဟိုတယ်၊ မိုတယ် (၁)လုံးချင်းစီနှင့် အဆင့်မြင့်စားသောက်ခန်းမ၏ အခန်းအရေအတွက် ၊ ငှားရမ်းထားသည့် ကာလနှင့် လက်ရှိငှားရမ်းခနှုန်းထားများကို နောက်ဆက်တွဲဖြင့် တင်ပြအပ်ပါသည်။

၃။ ဟိုတယ်၊ မိုတယ်ငှားရမ်းလုပ်ကိုင်သူများသည် ဟိုတယ် ၊ မိုတယ်များကို အဆင့်မြင့်ရန် ပြင်ဆင်ခြင်း ၊ တိုးချဲ့ဆောက်လုပ်ခြင်းများ ပြုလုပ်လိုကြသော်လည်း ငှားရမ်းသက်တမ်းပြည့်သည့် အချိန်တွင် တင်ဒါစနစ်ဖြင့် ထပ်မံငှားရမ်းလျက်ရှိသောကြောင့် ငှားရမ်းလုပ်ကိုင်သူများမှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ဝန်လေးနေကြပါသည်။

၄။ မြန်မာနိုင်ငံသို့ လာရောက်လည်ပတ်သည့် ကမ္ဘာလှည့်ခရီးသည်များ တစ်နှစ်ထက် တစ်နှစ် တိုးတက်များပြားလာသည်နှင့်အမျှ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းများသည်လည်း တစ်ရှိန်ထိုး တိုးတက်ဖွံ့ဖြိုးလျှက်ရှိပါသည်။ စီးပွားရေးလုပ်ငန်းရှင်များသည် ကိုယ်ပိုင်ဟိုတယ်များကို အပြိုင်အဆိုင် ဆောက်လုပ်လာကြသဖြင့် ပုဂ္ဂလိကပိုင် ဟိုတယ်များသည် သစ်လွင်တောက်ပနေပြီး နိုင်ငံပိုင် ဟိုတယ်များမှာမူ ငှားရမ်းလုပ်ကိုင်သူများမှ ဟိုတယ်ကို အကြီးစားပြင်ဆင်လုပ်ကိုင်မှု နည်းပါးခြင်းကြောင့် နိုင်ငံပိုင် ဟိုတယ်များ၏ သစ်လွင်တောက်ပမှု အထောက်အကူပြုပစ္စည်း သုံးစွဲမှုနှင့် ဝန်ဆောင်မှုစွမ်းရည်ပြည့်ဝမှုအပိုင်းတို့တွင် အားနည်းလျက်ရှိကြောင်း တွေ့ရှိရပါသည်။

၅။ ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ ငှားရမ်းထားသည့် နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့် စားသောက်ခန်းမကို နှစ်ရှည် ငှားရမ်းလုပ်ကိုင်နိုင်ရန် ငှားရမ်းကာလကို ကနဦး နှစ် (၅၀) နှင့် တစ်ဆက်တည်း သက်တမ်းတိုးခွင့် (၁၀) နှစ် နှစ်ကြိမ်ဖြင့် နှစ်ရှည် ငှားရမ်းလုပ်ကိုင် ခွင့်ပြုလိုက်ပါက ပုဂ္ဂလိက လုပ်ငန်းရှင်များသည် ရင်းနှီးမြှုပ်နှံမှုများ ပိုမိုတိုးချဲ့ဆောင်ရွက်လာမည် ဖြစ်၍ နိုင်ငံပိုင် ဟိုတယ်များသည် ပုဂ္ဂလိက ဟိုတယ်များနှင့် ရင်ပေါင်တန်းနိုင်ပြီး ဟိုတယ်လုပ်ငန်း ကို တိုးချဲ့လုပ်ကိုင်ခြင်းဖြင့် ပြည်သူတို့အတွက် အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုပေါ်ပေါက်လာ နိုင်မည် ဖြစ်ပါသည်။

၆။ အဆိုပါ ကိစ္စနှင့်စပ်လျဉ်း၍ ကုန်သွယ်ရေးနှင့် စီးပွားရေးလုပ်ငန်းများ မြှင့်တင် ရေး အထူးလုပ်ငန်းအဖွဲ့နှင့် ပုဂ္ဂလိကကဏ္ဍမှ ဖွဲ့စည်းထားသော မြန်မာစီးပွားရေးဖိုရမ် (Myanmar Business Forum ) နှင့် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းအဖွဲ့ ၂၀၁၅ ခုနှစ် မတ်လ (၂၈) ရက်နေ့၌ ပြုလုပ်သည့် တွေ့ဆုံဆွေးနွေးပွဲတွင် အဆိုပါ ပုဂ္ဂလိကအဖွဲ့အစည်းမှ နိုင်ငံပိုင် မြေနှင့်အဆောက်အဦ များ ငှားရမ်းသည့် ကာလမှာ တိုတောင်းသဖြင့် သက်တမ်းတိုးငှားရမ်းပေးပါရန် အဓိကထား တင်ပြမှုများ ရှိသကဲ့သို့ လက်ရှိ ငှားရမ်းလုပ်ကိုင်သူ ပုဂ္ဂလိကလုပ်ငန်းရှင်များကလည်း ရင်းနှီးမြှုပ်နှံ မှုအား ပိုမိုတိုးချဲ့ဆောင်ရွက်သည့် အခါတွင် နှစ်ရှည်ငှားရမ်းလုပ်ကိုင်ခွင့်ရရှိရန် လိုအပ်ပါကြောင်း တင်ပြခဲ့ကြပါသည်။

၇။ နိုင်ငံပိုင် ဟိုတယ် ၊ မိုတယ် ၊ ခန်းမ ၊ အဆောက်အဦများ ငှားရမ်းခြင်းအတွက် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ရှည်ငှားရမ်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုရန် ပြည်ထောင်စု အစိုးရအဖွဲ့ ၊ စီးပွားရေးရာကော်မတီသို့ တင်ပြခဲ့ရာ အဆိုပါ ကော်မတီမှ ငှားရမ်းသက်တမ်းအလိုက် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်လိုပါ မည်ဟု ဆုံးဖြတ်ခဲ့ပါသည်။

၈။ နိုင်ငံပိုင် ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့်စားသောက်ခန်းမကို လက်ရှိငှားရမ်းနေသော ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ နှစ်ရှည်ငှားရမ်းလုပ်ကိုင်ခွင့်ပြုမည်ဆိုပါက လက်ရှိငှားရမ်းလုပ်ကိုင်နေသည့် ပုဂ္ဂလိက လုပ်ငန်းရှင်များထံမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ အဆိုပြုချက်များကို ပြည့်စုံစွာ တင်ပြစေပြီး အထက်တင်ပြပါ ဝန်ကြီးဌာန၏ မူဝါဒနှင့် ညီညွတ်စွာ ဆက်လက်တင်ပြနိုင်ရေး ညှိနှိုင်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၉။ သို့ဖြစ်ပါ၍ နိုင်ငံသား ပုဂ္ဂလိကလုပ်ငန်းရှင်များအပါအဝင် ပြည်သူများအနေဖြင့် နိုင်ငံတော်အစိုးရ၏ အချိန်နှင့်အမျှ ပြုပြင်ပြောင်းလဲဆောင်ရွက်ပေးမှုကို ပွင့်လင်းမြင်သာစွာ တွေ့ရှိနိုင်ရေး၊ နိုင်ငံပိုင်ဟိုတယ်များ အဆင့်အတန်းမြင့်မားလာရေး၊ နှစ်ကာလကြာမြင့်စွာ ဆက်လက်တည်ရှိနိုင်ရေးအတွက် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နိုင်ငံပိုင်ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့် စားသောက်ခန်းမကို နှစ်ရှည် ငှားရမ်းလုပ်ကိုင်ခွင့်ပြုလိုပါသဖြင့် လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၁၂ . ၈ . ၂၀၁၃

( ဦးဌေးအောင် )
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနမှ ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ ငှားရမ်းထားသည့်

နိုင်ငံပိုင်ဟိုတယ်၊ မိုတယ်များနှင့် အဆင့်မြင့်စားသောက်ခန်းမ

| စဉ် | ဟိုတယ်/မိုတယ် | အခန်းအရေအတွက် | တစ်နှစ်ငှားရမ်းခ (ကျပ်သန်း) | ငှားရမ်းသည့်နှစ် | ငှားရမ်းသက်တမ်း |
|---|---|---|---|---|---|
| | နှစ်အဆက်ဆက်ငှားရမ်းထားသည့် ဟိုတယ်များ | | | | |
| ၁ | ပုဂံ(သံတဲ) ဟိုတယ် | ၉၂ | ၁၀၀ | ၁၂-၈-၁၉၉၄ မှ ၁၁-၈-၂၀၂၄ | ၃၀ နှစ် |
| ၂ | Panorama Hotel | ၈၈ | ၅၀ | ၁-၁-၁၉၉၈ မှ ၃၁-၁၂-၂၀၂၈ | ၃၀ နှစ် |
| ၃ | မြမန္တလာဟိုတယ် | ၄၂ | ၂၀ | ၁-၄-၁၉၉၉ မှ ၃၁-၃-၂၀၁၉ | ၂၀ နှစ် |
| ၄ | သရပါဟိုတယ် | ၈၆ | ၇၅ | ၁၄-၉-၂၀၀၂ မှ ၁၃-၉-၂၀၂၂ | ၂၀ နှစ် |
| ၅ | မိတ္ထီလာဟိုတယ် | ၃၄ | ၂၀ | ၁-၄-၂၀၀၅ မှ ၃၁-၃-၂၀၂၀ | ၁၅ နှစ် |
| | တင်ဒါခေါ်ယူ၍ ထပ်မံငှားရမ်းထားသည့် ဟိုတယ်များ | | | | |
| ၁ | လက်ခုပ်ကုန်းဟိုတယ် | ၃၀ | ၂၀ | ၁-၁၀-၂၀၁၂ မှ ၃၀-၉-၂၀၁၇ | ၅ နှစ် |
| ၂ | ကျိုက်ထီးဟိုတယ် | ၁၄၉ | ၁၈၀၅ | ၁-၁၀-၂၀၁၂ မှ ၃၀-၉-၂၀၂၇ | ၁၅ နှစ် |
| ၃ | Imperial Jade Hotel | ၄၀ | ၅၃၀ | ၁-၁၀-၂၀၁၂ မှ ၃၀-၉-၂၀၂၇ | ၁၅ နှစ် |
| ၄ | မြောက်ဦးဟိုတယ် | ၂၄ | ၁၆၆.၅ | ၁-၇-၂၀၁၃ မှ ၃၀-၆-၂၀၂၈ | ၁၅ နှစ် |
| ၅ | ဂန္ဓာမြိုင်ဟိုတယ် | ၅ | ၁၂၀ | ၁-၇-၂၀၁၃ မှ ၃၀-၆-၂၀၂၀ | ၁၅ နှစ် |
| ၆ | နန်းမြိုင်ဟိုတယ် | ၃၂ | ၆၀၀ | ၆-၈-၂၀၁၃ မှ ၅-၈-၂၀၂၈ | ၁၅ နှစ် |
| ၇ | နယူးချောင်းသာဟိုတယ် | ၂၇ | ၄၂၀ | ၁၀-၁၁-၂၀၁၃ မှ ၉-၁၁-၂၀၂၈ | ၁၅ နှစ် |
| ၈ | သီရိမြိုင်ဟိုတယ် | ၇ | ၂၀၀ | ၁၅-၁၁-၂၀၁၃ မှ ၁၄-၁၁-၂၀၂၈ | ၁၅ နှစ် |
| ၉ | တောင်ငူဟိုတယ် | ၁၈ | ၇၂ | ၁-၁-၂၀၁၄ မှ ၃၁-၁၂-၂၀၂၈ | ၁၅ နှစ် |
| ၁၀ | ကျိုင်းတုံဟိုတယ် (ဟောင်း) | ၂၄ | ၆၀ | ၁-၄-၂၀၁၄ မှ ၃၁-၃-၂၀၂၉ | ၁၅ နှစ် |
| ၁၁ | ချောင်းသာကမ်းခြေဟိုတယ် | ၈၈ | ၁၀၄၀ | ၁၄-၁၀-၂၀၁၄ မှ ၁၃-၁၀-၂၀၂၉ | ၁၅ နှစ် |
| ၁၂ | ကလောဟိုတယ် | ၄၅ | ၁၆၀ | ၁၁-၁၂-၂၀၁၄ မှ ၁၀-၁၂-၂၀၂၉ | ၁၅ နှစ် |
| ၁၃ | ပင်းတယဟိုတယ် | ၃၃ | ၃၁ | ၁၀-၁၂-၂၀၁၄ မှ ၉-၁၂-၂၀၂၉ | ၁၅ နှစ် |
| ၁၄ | ဝန်ဇင်းဟိုတယ် | ၃၀ | ၆၃ | ၁၀-၁၂-၂၀၁၄ မှ ၉-၁၂-၂၀၂၉ | ၁၅ နှစ် |
| ၁၅ | ကော့သောင်းမိုတယ် | ၁၄ | ၃၅ | ၁၁-၁၂-၂၀၁၄ မှ ၁၀-၁၂-၂၀၂၉ | ၁၅ နှစ် |
| ၁၆ | ကျိုင်းတုံဟိုတယ် (သစ်) | ၁၀၀ | ၁၈၅ | ၂-၇-၂၀၁၅ မှ ၁-၇-၂၀၃၀ | ၁၅ နှစ် |
| | အဆင့်မြင့်စားသောက်ခန်းမ | | | | |
| ၁ | ကရပိတ်ခန်းမ | - | ၃၅ | ၁-၅-၁၉၉၉ မှ ၃၀-၄-၂၀၁၉ | ၂၀ နှစ် |

(နောက်ဆက်တွဲ-ဃ)

# နှစ်ရှည်တိုးမြှင့်ငှားရမ်းဆောင်ရွက်ခွင့်အတွက် ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

သို့

ပြည်ထောင်စုဝန်ကြီး

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

နေပြည်တော်

စာအမှတ်၊ MCR/067/0915

ရက်စွဲ ၊ 15th Sep. 2015

ကျွန်တော်/ကျွန်မ သည်ငှားရမ်းထားသောဟိုတယ်အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ရှည်ငှားရမ်းဆောင်ရွက်လိုပါသဖြင့် ခွင့်ပြုနိုင်ပါရန် အောက်ပါအချက်အလက်များ အား ဖော်ပြလျှောက်ထားအပ်ပါသည်-

၁။ ဟိုတယ်အားငှားရမ်းထားသူ၏

(က) အမည် - ဦးကျော်မိုးနိုင်

(ခ) အဖအမည် - ဦးအောင်နိုင်

(ဂ) အမျိုးသားမှတ်ပုံတင်အမှတ်- ၁၂/ဒဂန(နိုင်) ၀၀၁၀၁၆

(ဃ) နိုင်ငံသား - မြန်မာ

(င) နေရပ်လိပ်စာ - အမှတ်(၃)၊ကံဘဲ့လမ်း၊ရန်ကင်း

(စ) အဖွဲ့အစည်းအမည်နှင့် လိပ်စာ - Lighting Specialist Co., Ltd
အမှတ်(၃)၊ကံဘဲ့လမ်း၊ရန်ကင်း

(ဆ) လုပ်ငန်းအမျိုးအစား - Trading & Services

(ဇ) လုပ်ငန်းတည်နေရာ - ရန်ကင်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး

၂။ ကိုးကြောင်းဖော်ပြချက်

(က) ငှားရမ်းထားသည့်ဟိုတယ်အမည် - ကလောဟိုတယ်

(ခ) ဟိုတယ်အားငှားရမ်းပေးသည့် အဖွဲ့အစည်းအမည် - ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

(ဂ) ဟိုတယ်တည်နေရာ - ကလောမြို့၊ ရှမ်းပြည်နယ်

(ဃ) ဟိုတယ်မြေအကျယ်အဝန်း - ၃.၇၈၅ + (၂.၈၅) ဧက

(င) ဟိုတယ်၏လက်ရှိအခြေအနေ - နှစ်ထပ်ဆောင်(၃)ဆောင်၊အခန်းစုစုပေါင်း ၄၅ခန်း

(စ) ငှားရမ်းလိုသည့်ကာလ - ၅၀+၁၀+၁၀ နှစ်

DHT-HC-2 Adm

"မူလစာချုပ်"ဟုခေါ်ဆိုမည်ဖြစ်သည်)ကိုချုပ်ဆိုခဲ့ကြပြီး အဆိုပါဟိုတယ်အား နှစ်ရှည်ငှားရမ်းမည်ဖြစ်သဖြင့် ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို နှစ်ဘက်သဘောတူချုပ်ဆိုကြပါသည်။

(ခ) မူလစာချုပ်ချုပ်ဆိုစဉ်က အငှားချထားသူသည် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနဟု ချုပ်ဆိုခဲ့သော်လည်း (၁၅-၁-၂၀၁၅) ရက်နေ့တွင် ပြုလုပ်ခဲ့သည့် ပြည်ထောင်စု အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၅)မှ သဘောတူခွင့်ပြုချက်အရ အမြဲတမ်းအတွင်းဝန်တာဝန်ခံကွပ်ကဲမည့် ဝန်ကြီးရုံးနှင့်ညွှန်ကြားရေးမှူးချုပ်တာဝန်ခံကွပ်ကဲမည့် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဌာန (၂)ခုတို့ဖြင့်(၁-၄-၂၀၁၅) ရက်နေ့မှစတင်၍ ပြန်လည်ပြင်ဆင်ဖွဲ့စည်းခဲ့သည့်အတွက်ကြောင့် အငှားချထားသူအဖြစ် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနနှင့် လက်မှတ်ရေးထိုးချုပ်ဆိုရခြင်းဖြစ်ပါသည်။

(ဂ ) ဟိုတယ်ငှားရမ်းလုပ်ကိုင်သူမှ ကလောဟိုတယ်အား နှစ်ရှည်ငှားရမ်းခွင့်ပြုပါရန် တင်ပြလာခဲ့ခြင်းအပေါ်ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပြီးကော်မရှင်၏ (................)ရက်စွဲပါ ခွင့်ပြုမိန့် အမှတ် ........................... အရ ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို နှစ်ဖက်သဘောတူချုပ်ဆိုကြပါသည်။ ကော်မရှင်၏ ခွင့်ပြုမိန့်မှာ နောက်ဆက်တွဲ (က) ဖြစ်ပါသည်။

သို့ပါ၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည့် အောက်ပါအတိုင်း သဘောတူကြပါသည်-

၂။ မူလစာချုပ် "ငှားရမ်းသည့်ကာလသက်တမ်း" ခေါင်းစဉ်အောက်ရှိအပိုဒ်(၅)တွင် ဖော်ပြပါရှိသည့် စာပိုဒ်ကိုပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

(၅) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၃) ၊ပုဒ်မ(၂၄)နှင့်(၂၅) တို့အရ ငှားရမ်းသည့်ကာလ သက်တမ်းကို မူလစာချုပ်လက်မှတ်ရေးထိုးသည့် ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ၊ (၁၁)ရက်နေ့မှစ၍ ကနဦး (၅၀) နှစ်(၁၁-၁၂-၂၀၁၄ မှ ၁၀-၁၂-၂၀၆၄ ထိ)ငှားရမ်းမည်ဖြစ်ပြီးကနဦး သက်တမ်းကုန်ဆုံးပါက အငှားချထားသူမှအငှားချထားခြင်းခံရသူ၏ လုပ်ငန်းဆောင်ရွက်မှုအား ကျေနပ်နှစ်သက်မှုရှိပါကမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် တစ်ဆက်တည်းသက်တမ်းတိုးခွင့်(၁၀)နှစ်နှင့်ယင်းသက်တမ်းကုန်ဆုံးပြီးဆက်လက်ကျေနပ်မှု

ရှိပါကကော်မရှင်၏ခွင့်ပြုချက် ဖြင့် ထပ်မံ၍ (၁၀) နှစ်သက်တမ်းတိုးမြှင့် ခွင့်ရရှိမည်ဖြစ်ပါသည်။

၃။ မူလစာချုပ် "ငှားရမ်းခနှုန်းထား"ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)တွင်ဖော်ပြပါရှိသည့်စာပိုဒ်များကိုပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရမည် -

၆(က) နှစ်စဉ်ငှားရမ်းခ တစ်နှစ်လျှင်ကျပ်သန်း (၁၆၀) (ကျပ်သန်းတစ်ရာ့ခြောက်ဆယ်တိတိ) (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ (၅%)ယင်းနှစ်ရပ်အနက်များရာကို ပေးသွင်းရမည်။

(ခ) နှစ်စဉ်ငှားရမ်းခကို (၄)နှစ် (လေးနှစ်)တစ်ကြိမ်နှစ်ဖက်ပြန်လည်ညှိနှိုင်းသုံးသပ်တိုးမြှင့်သတ်မှတ်ရမည်။တိုးမြှင့်သတ်မှတ်မှု ပမာဏသည် မူလငှားရမ်းခ၏ (၁၀%) ထက်မပိုစေရ။

(ဂ) မြေအသုံးချမှုပရီမီယံကြေးအား ကျပ်သန်း(၅၀) (ကျပ်သန်းငါးဆယ်တိတိ) ပေးသွင်းရမည်။

(ဃ)စာချုပ်တံဆိပ်ခေါင်းခွန်နှင့်ပတ်သက်၍အငှားချထားသူကပေးဆောင်ရမည်။

၄။ မူလစာချုပ် "ငှားရမ်းခပေးသွင်းခြင်း"ခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)နှင့် အပိုဒ် (၈) တို့တွင် ဖော်ပြပါရှိသည့် စာပိုဒ်ကို ပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရမည်-

၇ နှစ်စဉ်ငှားရမ်းခတစ်နှစ်လျှင် ကျပ်သန်း (၁၆၀) (ကျပ်သန်းတစ်ရာ့ခြောက်ဆယ်တိတိ) ကို တစ်နှစ်လျှင်(၄) ကြိမ် ခွဲ၍ပေးသွင်းရမည်။ ( ၃ )လ အတွက်ကျသင့်ငွေကျပ်သန်း(၄၀) (ကျပ်သန်းလေးခြောက်ဆယ်တိတိ) ကို (၃) လ ပြည့်ပြီးနောက်လဆန်း(၇)ရက်အတွင်းအငှားချထားသူသတ်မှတ် သည့်နေပြည်တော် ၊မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်) ရန်ကုန်မြို့၊ မြန်မာ့စီးပွားရေးဘဏ်ခွဲ (၅) ရှိ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန(ရုံးချုပ်)ဘဏ်စာရင်းသို့ပေးသွင်းရမည်။ဘဏ္ဍာနှစ်တစ်နှစ်၏နောက်ဆုံးလဖြစ်သောမတ်လအတွက် ငှားရမ်းခအား မတ်လ(၂၅)ရက်နေ့ မတိုင်မီကြိုတင်ပေးသွင်းရမည်။ဘဏ္ဍာနှစ်ကုန်ဆုံးပြီးနောက် စုစုပေါင်းဝင်ငွေ၏ (၅%) ကို တွက်ချက်၍ အနည်းဆုံးပေးသွင်းရမည့် နှစ်စဉ်ငှားရမ်းခကျပ်သန်း(၁၆၀)(ကျပ်သန်းတစ်ရာ့ခြောက်ဆယ်) ထက် ပိုမိုနေပါက ဧပြီလအတွင်း ထပ်မံပေးသွင်းရမည့်ငွေပမာဏကို ပေးသွင်းရမည်။

၈ မြေအသုံးချမှု ပရီမီယံကြေး ကျပ်သန်း (၅၀) (ကျပ်သန်းငါးဆယ်တိတိ) ကို နေပြည်တော်မြန်မာ့စီးပွားရေးဘဏ်(သို့မဟုတ်)ရန်ကုန်မြို့မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန(ရုံးချုပ်)ဘဏ်စာရင်းသို့ အငှားချထားခြင်း ခံရသူကတစ်လုံးတစ်ခဲတည်းအပြီးပေးသွင်းရမည်။ ပေးသွင်းပြီးမှသာ ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို နှစ်ဖက်ချုပ် ဆိုမည်ဖြစ်သည်။

၅။ မူလစာချုပ် "အာမခံငွေပေးသွင်းခြင်း" ခေါင်းစဉ်အောက်ရှိအပိုဒ်(၉)တွင် ဖော်ပြပါရှိသည့် စာပိုဒ်ကို အပိုဒ် (၉-က) အဖြစ်ဖော်ပြရမည်။ အောက်ပါစာပိုဒ်ကို အပိုဒ် (၉-ခ) အဖြစ် ဖြည့်စွက်ရမည်-

၉ (ခ) အာမခံစပေါ်ငွေသည် ငှားရမ်းခကို ခုနှိမ်ရန်မဟုတ်ပါ။

၆။ မူလစာချုပ်"ဒဏ်ကြေးသတ်မှတ်ခြင်း"ခေါင်းစဉ်အောက်ရှိအပိုဒ်(၁၀)တွင်ဖော်ပြပါရှိသည့် စာပိုဒ်ကို ပယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရမည်-

၁၀(က) ဟိုတယ်ငှားရမ်းခသည် တစ်နှစ်အတွက် ငှားရမ်းခဖြစ်သဖြင့် သတ်မှတ်သည့် တစ်နှစ်အတွင်းပေးဆောင်ရမည်ဖြစ်ပြီး၊ တစ်နှစ်အတွင်းပေးဆောင်ရန် ပျက်ကွက်ပါ က တစ်နှစ်ကုန်ဆုံးပြီးနောက် တစ်ရက်မှစ၍ ဒဏ်ကြေးကောက်ခံပါမည်။

(ခ) ရက်လွန်ဒဏ်ကြေးများမှာ ကျော်လွန်သောရက် တစ်ရက်လျှင် တစ်ရက် ငှားရမ်းခ ၏ (၁%) ဖြင့် ကောက်ခံပါမည်။

(ဂ) ဒဏ်ကြေးကောက်ခံသည့် ရက်စုစုပေါင်းသည် တစ်နှစ်အတွက် (၃၆၅)ရက်ထက် မပိုစေသော ကာလအတွက်သာ ကောက်ခံပါမည်။

၇။ မူလစာချုပ် "အငှားချထားခြင်းခံရသူ၏တာဝန်များ"ခေါင်းစဉ်အောက်ရှိ အပိုဒ် (၁၁-ဆ) ကို ပယ်ဖျက်၍ အောက်ပါအတိုင်းအစားထိုးပြင်ဆင်ရမည်-

၁၁(ဆ) အငှားချထားခြင်းခံရသူသည် နိုင်ငံပိုင်ကလောဟိုတယ်အား နှစ်ရှည်ငှားရမ်း လုပ်ကိုင်ခွင့်ပြုထားခြင်းသာဖြစ်ပါသည်။ ဤဟိုတယ်အမည်ပေါက်မြေနေရာ အဆောက် အဦးနှင့် တစ်ဆက်တစ်စပ်တည်းရှိသော ပစ္စည်းကိရိယာများအားလုံးသည် အငှားချ ထားသူ၏ပိုင်ဆိုင်မှုသာဖြစ်သည့်အတွက် အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်မရရှိဘဲ ထပ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း အမည်လွှဲပြောင်းပေးခြင်းစသည် တို့ကို လုံးဝမပြုလုပ်ရ။

၈။ မူလစာချုပ် “ရင်းနှီးမြှုပ်နှံမည့်ငွေပမာဏ”ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂)တွင် ဖော်ပြပါရှိသည့် စာပိုဒ်များတွင် အောက်ပါစာပိုဒ်ကို ထပ်မံ ဖြည့်စွက်ပါမည် -

၁၂(ဂ) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါအဆောက်အဦ အကွက်ချပုံစံ (Site Plan) အဆောက်အဦအမျိုးအစားအလိုက်၏ အရေအတွက်နှင့်ပုံစံ (Drawing) များအတိုင်းသာ ဆောက်လုပ်သွားရမည်ဖြစ်ပြီး၊ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူထံ ပြန်လည်တင်ပြ၍ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုမည်။ အငှားချထားခြင်းခံရသူသည် မိမိတို့အဆိုပြုလွှာတွင် တင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏအတိုင်း ပြန်လည်ရင်းနှီးမြှုပ်နှံရမည်။Site Plan နှင့် Drawing မှာ နောက်ဆက်တွဲ (ခ)ပါ အတိုင်းဖြစ်ပါသည်။

၉။ မူလစာချုပ် “အထွေထွေသဘောတူညီချက်များ”ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၄-င)နှင့် (၁၄-စ) တို့အား ပယ်ဖျက်ရမည်။

၁၀။ မူလစာချုပ် “စာချုပ်သက်တမ်းကုန်ဆုံးခြင်း” အပိုဒ်(၁၉)တွင်ဖော်ပြပါရှိသည့် စာပိုဒ်ကို ပယ်ဖျက်၍အောက်ပါအတိုင်းအစားထိုးပြင်ဆင်ရမည်-

၁၉ ဤစာချုပ်သက်တမ်းသည် မူလစာချုပ်လက်မှတ်ရေးထိုးသည့် (၁၁-၁၂-၂၀၁၄) မှ (၁၀-၁၂-၂၀၆၄) ထိ ကနဦး နှစ် (၅၀)ဖြစ်ပါသည်။ သို့သော် အငှားချထား ခြင်းခံရသူ၏စာချုပ်ပါ စည်းကမ်းများအားလိုက်နာရန် ပျက်ကွက်မှုကြောင့် အငှားချထားသူက စာချုပ်ပါစည်းကမ်းနှင့်အညီ ငှားရမ်းခြင်းကို ရပ်စဲသောနေ့သည် စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ဟုသတ်မှတ်ရမည်။ယင်းသို့စာချုပ်သက်တမ်းကုန်ခဲ့လျှင် အငှားချထားသူကအငှားချထားခြင်းခံရသူထံမှတစ်စုံတစ်ရာ ခုနှိမ်ရန်မရှိပါက အငှားချထားခြင်းခံရသူ တင်သွင်းထားသည့်လုပ်ငန်းအာမခံငွေကို ပြန်လည်ထုတ်ပေးရန်သဘောတူသည်။

၁၁။ တိုးချဲ့ရင်းနှီးမြှုပ်နှံမှုအတွက် လိုအပ်သည့်ငွေကြေးပမာဏကို ဘဏ်ချေးငွေ၊အခြားအရင်းအမြစ်များမှချေးငွေပြုလုပ်ရာတွင်နိုင်ငံပိုင်မြေနှင့်အဆောက်အဦများအားအသုံးပြု၍မရပါ။နှစ်(၅၀) လုပ်ပိုင်ခွင့်ကိုသာ အသုံးပြုချေးယူနိုင်မည်ဖြစ်ပါသည်။

၁၂။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

၁၃။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် စာချုပ်ပါအဖွဲ့ဝင်များ လက်မှတ်ရေးထိုးသည့် ရက်နေ့မှစ၍ စတင်အကျိုး သက်ရောက်စေရမည်။

၁၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့ ဖတ်ရှုသဘောတူသဖြင့် ၂၀၁၆ခုနှစ်၊ (          ) လ (    )ရက်နေ့တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

**အငှါးချထားသူ(ကိုယ်စား)** **အငှါးချထားခြင်းခံရသူ(ကိုယ်စား)**

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - ဦးတင့်သွင် | အမည် | - ဦးကျော်မိုးနိုင် |
| မှတ်ပုံတင်အမှတ် | - ၁၃/တယန(နိုင်)၀၀၃၃၆၇ | မှတ်ပုံတင်အမှတ် | -၁၂/အလန(နိုင်)၀၀၁၀၁၆ |
| အဆင့်/တာဝန် | - ညွှန်ကြားရေးမှူးချုပ် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန | နေရပ်လိပ်စာ | - အမှတ်(၃)၊ ကံဘဲလမ်း ရန်ကင်းမြို့နယ်၊ရန်ကုန် ရန်ကုန်မြို့။ |

**အသိသက်သေများ**

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - ဦးကောင်းထွဋ် | အမည် | - |
| မှတ်ပုံတင်အမှတ် | - ၁၂/သဃက(နိုင်)၁၅၆၃၇၁ | မှတ်ပုံတင်အမှတ် | - |
| ရာထူး | - ဒုတိယညွှန်ကြားရေးမှူးချုပ် | နေရပ်လိပ်စာ | - |
| ဌာန | - ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှု ဦးစီးဌာန | | |

# ကလောဟိုတယ် ငှားရမ်းခြင်းဆိုင်ရာ

## နှစ်ဘက်သဘောတူစာချုပ်

| အငှားချထားသူ(ကိုယ်စား) | | အငှားချထားခြင်းခံရသူ | |
|---|---|---|---|
| အမည် | ၊ ဦးတင့်သွင် | အမည် | ၊ ဦးကျော်မိုးနိုင် |
| နိုင်ငံသားစိစစ်ရေး ကဒ်အမှတ် | ၊ ၁၃/တယန(နိုင်)၀၀၃၃၆၇ | နိုင်ငံသားစိစစ်ရေး ကဒ်အမှတ် | ၊ ၁၂/အလန(နိုင်)၀၀၁၀၁၆ |
| အဆင့်/တာဝန် | ၊ ညွှန်ကြားရေးမှူးချုပ် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန | ကုမ္ပဏီအမည် | ၊ Lighting Specialist Co.,Ltd |

၂၀၁၄ခုနှစ် ၊ ဒီဇင်ဘာလ(၁၁)ရက်

ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနပိုင် ကလောဟိုတယ်အား
ငှါးရမ်းခြင်းဆိုင်ရာ နှစ်ဘက်သဘောတူစာချုပ်




၁။ ဤစာချုပ်ကို ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ( ၁၁ )ရက်နေ့၌ ညွှန်ကြားရေးမှူးချုပ် ဦးတင့်သွင်၊ နိုင်ငံသား စိစစ်ရေးကဒ်အမှတ်(၁၃/တယန(နိုင်)၀၀၃၃၆၇)ကိုယ်စားပြုသော ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုး တက်ရေး ဦးစီးဌာန( နောင်တွင် “အငှါးချထားသူ” ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူ တို့ပါဝင်သည် )က တစ်ဖက်နှင့် ဦးကျော်မိုးနိုင်၊ နိုင်ငံသား စိစစ်ရေးကဒ်အမှတ် (၁၂/အလန(နိုင်)၀၀၁၀၁၆) ကိုယ်စားပြုသော Lighting Specialist Co.,Ltd၊ အမှတ်(၃)၊ ကံဘဲ့လမ်း၊(၆)ရပ်ကွက် ၊ ရန်ကင်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး ( နောင်တွင် “အငှါးချထား ခြင်းခံရသူ”ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ် များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါအတိုင်း နှစ်ဦး သဘောတူစာချုပ် ချုပ်ဆိုကြပါသည်။

**ရည်ရွယ်ချက်**

၂။ နိုင်ငံတော်၏ ပြုပြင်ပြောင်းလဲလာသောစီးပွားရေးမူဝါဒနှင့်အညီ လုပ်ငန်းများပိုမိုတိုးတက် အောင်မြင်ဖွံ့ဖြိုးစေရန်အတွက် နိုင်ငံပိုင်ဟိုတယ်များအား ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ အငှားချထား ဆောင်ရွက်စေခြင်းဖြစ်ပါသည်။ထိုသို့ဆောင်ရွက်ရာတွင် နိုင်ငံတော်မှ နစ်နာမှုမရှိစေရေးနှင့် ပုဂ္ဂလိက လုပ်ငန်းရှင်မှလည်း ၎င်းတို့၏အကျိုးစီးပွားကို နိုင်ငံအကျိုးနှင့်ယှဉ်၍ စနစ်တကျလုပ်ကိုင်ဆောင်ရွက် နိုင်စွမ်းရှိစေရေးအတွက် ဤစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနပိုင် ကလောဟိုတယ်အား

ငှါးရမ်းခြင်းဆိုင်ရာ နှစ်ဘက်သဘောတူစာချုပ်





**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၃။ "အငှါးချထားသူ"သည် နောက်ဆက်တွဲများတွင် အသေးစိတ်ဖော်ပြထားသော မြေ (၃.၇၈၅) ဧကပါတယ်အဆောက်အအုံများနှင့်ပစ္စည်းများကို ပိုင်ဆိုင်သူဖြစ်ပြီး "အငှါးချထားခြင်းခံရသူ"သည် စာချုပ်ကို အကောင်အထည်ဖော်ရန်ငွေကြေးအင်အားပြည့်စုံသူများဖြစ်ကြပါသည်။ဤစာချုပ်ကို လက်မှတ် ရေးထိုးသူနှစ်ဦးနှစ်ဖက်လုံးသည် ဤသဘောတူစာချုပ်ချုပ်ဆိုရန် လုပ်ပိုင်ခွင့်အာဏာပြည့်စုံသူများဖြစ် ကြောင်း အသီးသီးအာမခံကြပါသည်။

**အငှားချထားသည့်ပစ္စည်း**

၄။ " အငှါးချထားခြင်းခံရသူ"သည် နောက်ဆက်တွဲ(က) မြေပုံဖြင့် ဖော်ပြထားသော မြေ၊ အဆောက်အအုံနှင့် နောက်ဆက်တွဲများဖြင့် ဖော်ပြထားသောအဆောက်အဦ၊ ပရိဘောဂနှင့်အခြား ပစ္စည်းများ(စက်များအပါအဝင်)ကိုငှါးရမ်းဆောင်ရွက်မည်ဖြစ်ပါသည်။

**ငှါးရမ်းသည့်ကာလသက်တမ်း**

၅။ ငှါးရမ်းသည့်ကာလသက်တမ်းကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍(၁၅)နှစ် သတ်မှတ်ပါသည်။

**ငှါးရမ်းခနှုန်းထား**

၆။ ငှါးရမ်းခကို အောက်ပါအတိုင်းသတ်မှတ်ရန် သဘောတူပါသည်-

(က) ကလောဟိုတယ်ငှါးရမ်းခသည် တစ်နှစ်လျှင် မြန်မာငွေ ကျပ်(၁၆၀၀)သိန်းစာဖြင့် (ကျပ်သိန်းတစ်ထောင့်ခြောက်ရာတိတိ) ဖြစ်သည်။

**(ခ) ငှါးရမ်းခကို တစ်နှစ်ပြည့်လျှင် လုပ်ငန်းဖွံ့ဖြိုးတိုးတက်မှုကို သုံးသပ်၍ တိုးမြှင့်ရန်ပြန်လည်ညှိနှိုင်းမည်။**

**(ဂ) ဟိုတယ်အား တိုးချဲ့ပြုပြင်တည်ဆောက်ခဲ့ပါက ထပ်မံရရှိသောဝင်ငွေအပေါ်တွင် တိုးမြှင့်ရန်ကို နှစ်ဘက်ညှိနှိုင်း၍ ပြင်ဆင်သတ်မှတ်မည်။**

**ငှါးရမ်းခပေးသွင်းခြင်း**

၇။ **ငှားရမ်းခပေးသွင်းခြင်းကိုတစ်လခြင်းပေးသွင်းသည့်စနစ်ဖြင့် ပေးသွင်းရန်ဖြစ်ပြီး** "အငှါးချထားခြင်းခံရသူ"သည် သတ်မှတ်ထားသော တစ်နှစ်ငှါးရမ်းခ မြန်မာကျပ်ငွေ (၁၆၀၀) သိန်း၏ တစ်လအတွက်ကျသင့်ငွေကျပ်(၁၃၃.၃၃)သိန်းအား လကုန်ပြီး လဆန်း(၇)ရက်အတွင်း အငှားချထားသူ သတ်မှတ်သည့်



နေပြည်တော်မြန်မာ့စီးပွားရေးဘဏ်(သို့မဟုတ်) ရန်ကုန်မြို့ မြန်မာ့စီးပွားရေးဘဏ်ခွဲ(၅)ရှိ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန(ရုံးချုပ်) ဘဏ်စာရင်းသို့ ပေးသွင်းရမည်။ ဘဏ္ဍာနှစ် တစ်နှစ်၏နောက်ဆုံးဖြစ်သော မတ်လအတွက် ငှားရမ်းခအား မတ်လ(၂၅)ရက်နေ့မတိုင်မီ ကြိုတင်ပေး သွင်းရမည်။

၈။ ဟိုတယ်စတင်ငှားရမ်းသည့် နေ့မှစ၍ ပထမ(၆)လအတွက် လစဉ်ကျသင့်သည့် ငှားရမ်းခ တစ်လစာအားပေးသွင်းရန်ဖြစ်သော်လည်း ယင်းကာလအားဟိုတယ်ပြင်ဆင်ချိန်ကာလအဖြစ်သတ်မှတ် ၍ လစဉ် ငှားရမ်းခ တစ်လစာ၏ (၅၀%)သာ သတ်မှတ်ရက်အတိုင်း ပေးသွင်းရမည်။

**အာမခံငွေပေးသွင်းခြင်း**

၉။ "အငှါးချထားခြင်းခံရသူ" သည် လုပ်ငန်းအာမခံငွေအဖြစ် ငှါးရမ်းခတစ်နှစ်စာနှင့် ညီမျှသော ငွေကျပ်(၁၆၀၀)သိန်းကို **"အငှားချထားသူ" သတ်မှတ်သည့် နေပြည်တော်မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်) ရန်ကုန်မြို့ မြန်မာ့ စီးပွားရေးဘဏ်ခွဲ ( ၅ )ရှိ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန ( ရုံးချုပ် ) ဘဏ်စာရင်းသို့ "အငှားချထားခြင်းခံရသူ" က တစ်လုံးတခဲတည်း အပြီးပေးသွင်းရမည်။ ပေးသွင်းပြီးမှသာ စာချုပ် ချုပ်ဆိုမည်ဖြစ်သည် ။ ပေးသွင်းရန်ပျက်ကွက်ပါက စာချုပ်အား ရပ်စဲမည်။**

**ဒဏ်ကြေးသတ်မှတ်ခြင်း**

၁၀။ ပေးသွင်းရမည့် ငှားရမ်းခတစ်လစာအား ပေးသွင်းရမည့်နေ့ရက်ထက် နောက်ကျပေးသွင်းပါက တစ်ရက်လျှင် တစ်ရက်ငှားရမ်းခကျပ် (၄.၃၈)သိန်း၏ (၁%)ဖြစ်သော ကျပ်(၀.၄၃၈)သိန်းကို နောက်ကျပေးသွင်းသည့်ရက်များအတွက် "အငှားချထားခြင်းခံရသူ"မှ ဒဏ်ကြေးအဖြစ်ပေးဆောင်ရမည်။

**အငှါးချထားခြင်းခံရသူ၏ တာဝန်များ**

၁၁။ "အငှါးချထားခြင်းခံရသူ" သည် အောက်ပါတို့ကိုတာဝန်ခံဆောင်ရွက်ရမည်-

(က) အငှားချထားခြင်းခံရသူသည် ကလောဟိုတယ်တွင် ခန့်ထားသော ဝန်ထမ်းများ၏ဝန်ထမ်းရေးရာကိစ္စနှင့်ပတ်သက်၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အလုပ်သမားဝန်ကြီးဌာန၏ အလုပ်သမားဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(ခ) ကလောဟိုတယ်၏ လက်ရှိအဆောက်အအုံ၊ အခန်းဖွဲ့စည်းထားမှုကိုပြောင်းလဲစေသည့် တိုးချဲ့ခြင်း၊ ပြုပြင်ခြင်း၊ အဆောက်အဦသစ်တိုးချဲ့ဆောက်လုပ်ခြင်းများကို "အငှါးချ ထားသူ" ထံမှ စာဖြင့်ကြိုတင်ခွင့်ပြုချက် ရရှိမှသာဆောင်ရွက်ရမည်။

(ဂ) ငှါးရမ်းကာလအတွင်း"အငှါးချထားခြင်းခံရသူ"သည် ငှါးရမ်းလုပ်ကိုင်ခွင့်ရသည့် မြေနှင့် ဟိုတယ်၊အဆောက်အဦကိုလည်းကောင်း ၊ လုပ်ငန်းသုံးပစ္စည်းများကိုလည်းကောင်း ၊ လွှဲပြောင်း



ယူစဉ်ကရှိခဲ့သည့် အခြေအနေအဆင့်အတန်းထက် မနိမ့်ကျစေဘဲအဆင့်မြင့်မွမ်းမံပြင်ဆင်ဖြည့်တင်းခြင်း (Upgrading)ပြုလုပ်ရမည်။ ဟိုတယ်အား မူလပုံစံအတိုင်းပြန်လည်ပြုပြင်တည်ဆောက်ခြင်း၊ ဟိုတယ်ဝင်းအတွင်း **ထပ်မံတိုးချဲ့ဆောက်လုပ်လိုသောအခန်းများ၊ အဆောက်အဦများ ဆောက်လုပ်ခြင်းကို စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်း၍ ( ၃ )နှစ်အတွင်း ပြီးစီးအောင်ဆောင်ရွက်ရမည်။**

(ဃ) " အငှါးချထားခြင်းခံရသူ" ၏ အစီအစဉ်ဖြင့် ဖြည့်တင်းထားသော စက်ကိရိယာ၊ အသုံးအဆောင်နှင့်အဆောက်အအုံတွင် တွယ်ကပ်ထားသော ပစ္စည်းများအားလုံးတို့ကိုလည်း ငှါးရမ်းခြင်းရပ်စဲချိန်တွင်"အငှါးချထားသူ"သို့ အဖိုးစားနားမပါဘဲလွှဲပြောင်းပေးရမည်။

(င ) ငှါးရမ်းလုပ်ကိုင်သည့် ကာလပြည့်ပြီးနောက် "အငှါးချထားသူ"က ဆက်လက်အငှါးချ ထားခြင်းမပြုပါကယင်းဟိုတယ်နှင့်နောက်ဆက်တွဲ(က)၊(ခ)ပါပစ္စည်းများ (စက်များအပါအဝင်) ကို မူလငှါးယူစဉ်က အခြေအနေအဆင့်အတန်းထက် မနိမ့်သော အခြေအနေဖြင့် အဖိုးအခမပါဲ "အငှါးချထားသူ"ထံ လွှဲအပ်ပေးရမည်။ (မူလအခြေအနေဆိုရာတွင် ပစ္စည်းအရေအတွက်ကိုက်ညီရမည်ဖြစ်ပြီးပစ္စည်း၏သဘာဝအရဟောင်းသွားသည်မှလွဲ၍ ဆက်လက်သုံးစွဲနိုင်သောအခြေအနေမျိုးဖြစ်ရမည်။) အကယ်၍ ပြန်လည်အပ်နှံချိန်တွင် အဆောက်အဦများ-သည် မူလအခြေအနေအဆင့်အတန်းထက်နိမ့်ကျနေ၍ "အငှါးချထားသူ"က ပြန်လည်ပြုပြင်ရလျှင်ယင်းအတွက်ကုန်ကျစရိတ်များကိုပါ"အငှါးချထားခြင်းခံရသူ"က ပြန်လည်ပေးလျော်ရမည်။ နောက်ဆက်တွဲ ကလောဟိုတယ်လွှဲပြောင်းခဲ့သော ပူးတွဲပါပစ္စည်းများသည် ဆက်လက်သုံးစွဲနိုင်သော အခြေအနေမရှိလျှင်နှစ်ဘက်ညှိနှိုင်း သတ်မှတ်ထားသော တန်ဘိုးကို ပေးလျော်ရမည်။

**(စ ) ဟိုတယ်တွင် စားသုံးသူ(သို့မဟုတ်)တည်းခိုသူ၏ မူးယစ်ရမ်းကားခြင်းကြောင့် ဟိုတယ်ရှိပစ္စည်းတစ်စုံတစ်ရာပျက်စီးခြင်းနှင့် ပျောက်ဆုံးခြင်းများပေါ်ပေါက်ပါက "အငှားချထားခြင်းခံရသူ"သည် ၎င်း၏ကုန်ကျစရိတ်ဖြင့် ယင်းပစ္စည်းများကို ချက်ခြင်းအစားထိုးပြင်ဆင်ဖြည့်စွက်ခြင်း၊ ပြုလုပ်ရမည်။**

(ဆ) အငှါးချထားသည့်မြေ၊အဆောက်အအုံနှင့် ပစ္စည်းတို့ကိုလည်းကောင်း၊ ယင်းတို့၏တစ်စိတ်တစ်ဒေသကိုလည်းကောင်း၊ ပေါင်နှံခြင်း၊ တစ်ဆင့်ငှါးရမ်းခြင်း၊ ရောင်းချခြင်း (သို့မဟုတ်) တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်းစသည့်တို့ကို လုံးဝမပြုလုပ်ရ။



(ဇ) အငှါးချထားသည့်ပစ္စည်းများနှင့် စပ်လျဉ်း၍ စည်ပင်အခွန်၊ မြေခွန်မှအပ တံဆိပ်ခေါင်းခွန် လိုင်စင်ကြေး၊ အခြားအခွန်အခများနှင့်လုပ်ငန်းဆောင်ရွက်မှုနှင့်သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဈ) "အငှါးချထားခြင်းခံရသူ" သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည်။

(ည) " အငှါးချထားခြင်းခံရသူ"သည် မီးအာမခံအပါအဝင် အခြားလုပ်ငန်းလိုအပ်ချက်အရ လိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေနှင့်အညီထားရှိရမည့် အာမခံများကိုငှါးရမ်း လုပ်ကိုင်နေစဉ်အတွင်း "အငှါးချထားသူ"၏အမည်ဖြင့် မြန်မာ့အာမခံလုပ်ငန်းတွင် ထားရှိ ရမည်။

(ဋ) "အငှါးချထားခြင်းခံရသူ"သည်ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်များထားရှိ ခြင်းတို့ကိုပြည်ထောင်စုမြန်မာနိုင်ငံတော်တည်ဆဲဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ် နည်းများနှင့်အညီပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရ မည်။

(ဌ) "အငှါးချထားခြင်းခံရသူ"(သို့မဟုတ်)" အငှါးချထားခြင်းခံရသူ" ၏ တာဝန်ပေးအပ်ခြင်း ခံရသူ၏ ဆက်စပ်လုပ်ငန်းတစ်ရပ်ရပ်၏ပယောဂကြောင့် မီးလောင်ဆုံးရှုံးမှုဖြစ်ပေါ်လာပါက ဆုံးရှုံးမှုတန်ဘိုးမှ မီးအာမခံအတွက် ရရှိမည့်ငွေကိုနုတ်ပယ်ပြီး ကျန်တန်ဘိုးကို "အငှါးချ ထားခြင်းခံရသူ" မှ ပေးလျော်ရမည်။

**ရင်းနှီးမြှုပ်နှံမည့် ငွေပမာဏ**

၁၂။ အငှားချထားခြင်းခံရသူသည် ကလောဟိုတယ်အား ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့် အစီအစဉ် အသေးစိတ်ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) **အဆင့်မြှင့်မွမ်းမံပြင်ဆင်ခြင်း ၊ အသစ်တိုးချဲ့တည်ဆောက်ခြင်းလုပ်ငန်းများအား နှစ်ဖက် ညှိနှိုင်း၍ အတည်ပြုသော လုပ်ငန်းများကို အငှားချထားခြင်းခံရသူ၏ ရင်းနှီးမြှုပ်နှံမှု တန်ဖိုးများအဖြစ် မှတ်တမ်းတင်ပေးမည်။**

(ခ) "အငှါးချထားခြင်းခံရသူ"မှအဆင့်မြှင့်မွမ်းမံပြင်ဆင်ဖြည့်တင်းခြင်းနှင့် အသစ်တိုးချဲ့တည် ဆောက်ခြင်းအတွက်အဆောက်အအုံနှင့် ရင်းနှီးမြှုပ်နှံငွေအဖြစ် ဖော်ပြထားသောပစ္စည်း အားလုံးကိုငှါးရမ်းသည့်သက်တမ်းကုန်ဆုံးချိန်တွင်အဖိုးစားနားမပါပဲ"အငှါးချထားသူ"သို့ လွှဲပြောင်းပေးရန်အတွက်နှစ်ဖက်ညှိနှိုင်းပြီး တည်ဆဲဥပဒေနှင့်အညီ ဆောင်ရွက်ရမည်။



**"အငှါးချထားသူ" ၏ တာဝန်များ**

၁၃။ "အငှါးချထားသူ" သည်အောက်ပါတို့ကို တာဝန်ခံဆောင်ရွက်ရမည်-

(က) "အငှါးချထားခြင်းခံရသူ" အား အငှါးချထားသည့် မြေ နောက်ဆက်တွဲ(က)၊ လွှဲပြောင်းပေးအပ်သည့်မှတ်တမ်းစာအုပ်ပါအဆောက်အဦ၊ပရိဘောဂနှင့်အခြားပစ္စည်းများ(စက်များအပါ အဝင်) ကို အသုံးပြု၍ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုရမည်။

(ခ) ဟိုတယ်အဆောက်အဦ တည်ရှိသည့်မြေနေရာအတွက် မြေခွန်ကိုပေးဆောင်ရမည်။

(ဂ) "အငှါးချထားခြင်းခံရသူ"အတွက် သတ်မှတ်လုပ်ထုံးလုပ်နည်းများနှင့် အညီ အခြားသက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ဆက်စပ်ဆောင်ရွက်ပေးရန် လိုအပ်ပါကအကူအညီပေးရမည်။

**အထွေထွေသဘောတူညီချက်များ**

၁၄။ ဟိုတယ်ငှါးရမ်းခြင်းဆိုင်ရာအထွေထွေသဘောတူညီချက်များမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) ကလောဟိုတယ်လုပ်ငန်းနှင့် ဆက်စပ်၍ "အငှါးချထားသူ"က ဆောင်ရွက်ပေးရန်(သို့မဟုတ်) "အငှါးချထားခြင်းခံရသူ"က ဆောင်ရွက်ပေးရန်ကိစ္စရပ်များ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်နိုင်သည်။

**(ခ) အငှားချထားခြင်းခံရသူမှ အဆင့်မြှင့်မွမ်းမံပြင်ဆင်ခြင်းနှင့် အသစ်တိုးချဲ့တည်ဆောက်ခြင်းအတွက်ရင်းနှီးမြှုပ်နှံမှုအခြေအနေအရငှားရမ်းသက်တမ်းကာလ ပြည့်ပြီးနောက် ဆက်လက်ငှားရမ်းခွင့်ပေးနိုင်ရန် တင်ပြလာပါက အငှားချထားသူအနေဖြင့် ယင်းကာလရှိ တည်ဆဲဥပဒေစည်းမျဉ်းများအရ စဉ်းစားဆောင်ရွက်သွားရန်ဖြစ်ပါသည်။**

(ဂ) "အငှါးချထားသူ" ၏ ချို့ယွင်းပျက်ကွက်မှုမပါပဲ မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုခုကြောင့် ဟိုတယ်ကို ယာယီပိတ်ထားခံရပါက "အငှါးချထားခြင်းခံရသူ" က အဆိုပါ ပိတ်ထားရသည့်ကာလအတွက် ပေးဆောင်ရမည့် ငှါးရမ်းခကိုကင်းလွတ်ခွင့်ပြုရန် "အငှါးချထားသူ" ထံသို့ တင်ပြတောင်းခံနိုင်သည်။ "အငှါးချထားသူ" က ယင်းကာလအတွက် ငှါးရမ်းခကို ကင်းလွတ်ခွင့်ပြုနိုင်သည်။(သို့မဟုတ်) လျော့ပေါ့ခွင့်ပြုနိုင်သည်။

(ဃ) သဘာဝဘေးအန္တရာယ်(လေမုန်တိုင်းများ၊ ရေကြီးခြင်း၊ ငလျင်) ကြောင့် ပျက်စီးဆုံးရှုံးမှုများရှိခဲ့၍ လုပ်ငန်းအားလုံးရပ်ဆိုင်းရပါက" အငှါးချထားခြင်းခံရသူ "က မူလသတ်မှတ်ထားခဲ့သည့်ငှားရမ်းခကို နှစ်ဘက်ပြန်လည်ညှိနှိုင်းပြင်ဆင်ထားသည့်ဝ့်ဝ် ငှားရမ်းခအားပြင်ဆင်ဆဲကာလအတွင်း"အငှါးချထားခြင်းခံရသူ"မှပေးဆောင်ရန်ဖြစ်သည်။

(င) ဤစာချုပ်ပါငှားရမ်းခနှုန်းထားအပိုဒ်ကြီး(၆)၊အပိုဒ်ခွဲ(ခ)တွင်ဖော်ပြချက်အားပြန်လည် သုံးသပ်ပြင်ဆင်သတ်မှတ်ရာ၌၁၀%နှုန်းမှ၅% ထက် မပိုသော နှုန်းထားကို ပြင်ဆင်သတ်မှတ်မည်။





(စ) ဤစာချုပ်ပါ ငှားရမ်းခနှုန်းထား အပိုဒ်ကြီး(၆)၊အပိုဒ်ခွဲ(ဂ)တွင် ဖော်ပြချက်အားပြန်လည်သုံးသပ်ပြင်ဆင်သတ်မှတ်ရာတွင် ၁%မှ ၃ %ထက်မပိုသော နှုန်းထားကို ပြင်ဆင်သတ်မှတ်ရမည်။

**နောက်ဆက်တွဲများ**

၁၅။ ဤစာချုပ်တွင် ပူးတွဲထားရှိရသည့် မြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သည်။

**ကြိုတင်စည်းကမ်းချက်**

၁၆။ ဤဟိုတယ် ငှါးရမ်းခြင်းသဘောတူစာချုပ်ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖော်ခြင်း တို့သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ သဘောတူခွင့်ပြုချက်ရရှိပြီးမှသာ ဆက်လက်ဆောင်ရွက်ခွင့်ရှိပါမည်။

**သယံဇာတပစ္စည်းများတွေ့ရှိခြင်း**

၁၇။ ဤစာချုပ်အရ ဆောင်ရွက်နေစဉ်အတွင်းမမျှော်လင့်ဘဲအငှားချထားသည့် မြေပေါ်မြေအောက် မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ သဘာဂတွင်းထွက်ပစ္စည်းများ၊ သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများတွေ့ရှိပါက "အငှါးချထားသူ"သို့ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါ ပစ္စည်းများကို အငှားချထားသူမှ မည့်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရ မည်။ အဆိုပါ သယံဇာတပစ္စည်းများသည် နိုင်ငံတော် ပိုင်ပစ္စည်းများဖြစ်စေရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၈။ "အငှားချထားခြင်းခံရသူ"သည် လုပ်ငန်းဆောင်ရွက်ရမည့်ဒေသ၏ ပတ်ဝန်းကျင်နေရာများ အားကောင်းစွာထိန်းသိမ်းကာကွယ်စောင့်ရှောက်ထားရန် စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်ရန်၊ ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလုပ်ထားရန် တာဝန်ရှိသည်။ ထို့ပြင် လေထု၊ ရေထုနှင့်မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်း များအားရေများသန့်စင်စေနိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုကို မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့်ပစ်သည့် အစိတ်အပိုင်းများကို အန္တရာယ်ကင်းရှင်းစေရေးဆိုင်ရာလိုအပ် သော အကာအကွယ်များ အစီအစဉ်များ ဆောင်ရွက်ထားရှိရမည်။ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လိုက်နာအကောင်အထည်ဖော်ရမည်။



**စာချုပ်သက်တမ်းကုန်ဆုံးခြင်း**

၁၉။ ဤစာချုပ်သက်တမ်းသည် စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှ (၁၅)နှစ်ပြည့်မြောက်သည့် (၁၀ . ၁၂ . ၂၀၂၉ )နေ့ အထိ ဖြစ်သည်။ သို့သော် "အငှါးချထားခြင်းခံရသူ"၏ စာချုပ်ပါစည်းကမ်းချက်များအား လိုက်နာရန် ပျက်ကွက်မှုကြောင့် "အငှါးချထားသူ"က စာချုပ်ပါစည်းကမ်းနှင့်အညီ ငှါးရမ်း ခြင်းကို ရပ်စဲသောနေ့သည် စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ဟု သတ်မှတ်ရမည်။ ယင်းသို့ စာချုပ်သက်တမ်းကုန်ခဲ့လျှင်"အငှါးချထားသူ"က"အငှါးချထားခြင်းခံရသူ"ထံမှတစ်စုံတစ်ရာခုနှိမ်ရန်မရှိပါက"အငှါးချထားခြင်းခံရသူ"တင်သွင်းထားသည့် လုပ်ငန်းအာမခံငွေကို ပြန်လည်ထုတ်ပေးရန် သဘောတူသည်။

**ငှါးရမ်းသည့်မြေနှင့် အဆောက်အဦအား ပြန်လည်လွှဲအပ်ခြင်း**

၂၀။ ဤစာချုပ်သက်တမ်းကုန်ဆုံးလျှင် (သို့မဟုတ်) စာချုပ်ရပ်စဲလျှင် အခြားသဘောတူညီနိူင်းထားချက်များ မရှိပါက ရက်ပေါင်း (၃၀)အတွင်း မြေနှင့်အဆောက်အအုံများကို "အငှါးချထားခြင်းခံရသူ" က "အငှါးချထားသူ" သို့ ကောင်းမွန်သော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ ပြန်လည်အပ်နှံ ရမည်။

**စာချုပ်ရပ်စဲခြင်း**

၂၁။ ဤစာချုပ်သည် အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်တစ်ရပ်ရပ်ဖြစ်ပါက ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၊အစိုးရအဖွဲ့၏ အတည်ပြုချက်ဖြင့် ရပ်စဲနိုင်သည်-

(က) စာချုပ်ချုပ်ဆိုသူနှစ်ဦးနှစ်ဘက်တို့သည်စာချုပ်ကိုရပ်စဲရန်သဘောတူလျှင်လည်း ကောင်း၊

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်လျှင်လည်းကောင်း၊

(ဂ) သက်ဆိုင်သည့်လုပ်ငန်းတစ်ခုလုံးတွင် ကြီးမားသောအရှုံးဆက်တိုက်ပေါ်ပေါက်နေသည့်အခါ တွင် လည်းကောင်း၊

(ဃ) မလွန်ဆန်နိုင်သည့် ဖြစ်ရပ်တစ်ခုခုသည် တစ်ဆက်တည်း(၆)လထက်မနည်းပေါ်ပေါက်နေသည့်အခါတွင်လည်းကောင်း၊

(င) စာချုပ်ပါ မူလရည်မှန်းချက်များကို အကောင်အထည် မဖော်နိုင်တော့သည့်အခါတွင် လည်းကောင်း၊

(စ) စာချုပ်သက်တမ်းကုန်ဆုံးလျှင် လည်းကောင်း၊

(ဆ) **"အငှားချထားခြင်းခံရသူသည်" ငှားရမ်းခပေးသွင်းရန် ပျက်ကွက်ခဲ့ပါက မပေးသည့်အချိန်မှစတင်၍ လုပ်ငန်းရပ်ဆိုင်းမည်ဖြစ်ကြောင်းနှင့် လုပ်ငန်းနှင့်ပတ်သက်သည့် ပစ္စည်းများကို ဌာနမှ ပြန်လည်သိမ်းဆည်းမည်ဖြစ်ကြောင်း၊**





(ဇ) ငှားရမ်းလုပ်ကိုင်ခွင့်ရသည့် ဟိုတယ်၏အခန်း၊ အဆောက်အအုံများအား အဆင့်မြှင့်မွမ်းမံဖြည့်တင်းခြင်း၊စာချုပ်ပါဝန်ခံကတိအတိုင်းငွေရင်းနှီးမြှုပ်နှံအသစ်တိုးချဲ့တည်ဆောက်ခြင်းများကို ဆောင်ရွက်ခြင်းပြုရန် ပျက်ကွက်ပါကလည်းကောင်း၊

**ပြန်လည်ဝင်ရောက်နိုင်ခွင့်**

၂၂။ ဤစာချုပ်ကို"အငှါးချထားခြင်းခံရသူ"၏စာချုပ်ပါစည်းကမ်းချက်များအားလိုက်နာရန်ပျက်ကွက်မှုကြောင့်ရပ်စဲသည့်အခါတွင်"အငှါးချထားသူ"သည်အငှါးချထားသည့် အဆောက်အအုံ ပစ္စည်းအားလုံးနှင့် ဆောက်လုပ်ပြီးစီးသည့် အဆောက်အအုံ သစ်များအပါအဝင် ပစ္စည်းအားလုံးကို သိမ်းဆည်းပြီး ရယူပိုင်ခွင့်ရှိစေရမည့်အပြင်အငှါးချထားသည့် ပစ္စည်းများအပေါ်သို့ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိ သည်။ ယင်းသို့ပြုလုပ်မှုကြောင့် "အငှါးချထားသူ"၏ ငှါးရမ်းခရပိုင်ခွင့်နှင့် လျော်ကြေးတောင်းဆိုပိုင်ခွင့် များကို ထိခိုက်မှုမရှိစေရ။

**အငြင်းပွားမှု ဖြေရှင်းခြင်း**

၂၃။ ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်းဖြေရှင်းစေရမည်။ ထိုသို့ဖြေရှင်း၍မရပါက သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၂၄။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည့်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက် ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းခွင့် မရှိစေရ။

ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်လာပါက၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ(၃၀)ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ချက်ချင်း စာဖြင့်ရေးသား အကြောင်းကြားရမည်။



**စာပေးစာယူပြုလုပ်ရန်ကိစ္စ**

၂၅။ စာပေးစာယူပြုလုပ်ရာတွင်မြန်မာဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း ၊ တဲလက်စ်ဖြင့်ပို့ခြင်း ၊ ဖက်စ်ဖြင့်ပို့ခြင်းတို့ကို အသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်း ဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်စာချုပ်ဝင်သို့ ချက်ချင်းအသိပေး အကြောင်းကြားထားရမည်-

(က) ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ရုံးအမှတ်(၃၃)၊နေပြည်တော်။
တယ်လီဖုန်းအမှတ် - ၀၆၇-၄၀၆၀၇၈
ဖက်စ်အမှတ် - ၀၆၇-၄၀၆၀၇၉

(ခ) ဦးကျော်မိုးနိုင်
၁၂/အလန(နိုင်)၀၀၁၀၁၆
Lighting Specialist Co.,Ltd
အမှတ်(၃)၊ ကံဘဲ့လမ်း၊ (၆)ရပ်ကွက်
ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

**စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့**

၂၆။ ဤသဘောတူစာချုပ်သည် (၁၁.၁၂.၂၀၁၄) ရက်နေ့မှစ၍ စတင်အကျိုးသက်ရောက်သည်။

၂၇။ ဤစာချုပ်ပါ စည်းကမ်းချက်များကို သဘောတူလက်ခံသဖြင့် ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ(၁၁) ရက်နေ့တွင် အောက်ပါအသိသက်သေများရှေ့၌ လက်မှတ်ရေးထိုးချုပ်ဆိုကြသည်-

| အငှါးချထားသူ(ကိုယ်စား) | | အငှါးချထားခြင်းခံရသူ(ကိုယ်စား) | |
|---|---|---|---|
| လက်မှတ် | - (signed) ၁၁/၁၂/၁၄ | လက်မှတ် | - (signed) 11/12/2014 |
| အမည် | - ဦးတင့်သွင် | အမည် | ဦးကျော်မိုးနိုင် |
| မှတ်ပုံတင်အမှတ် | - ၁၃/တယန(နိုင်)၀၀၃၃၆၇ | မှတ်ပုံတင်အမှတ် | - ၁၂/အလန(နိုင်)၀၀၁၀၁၆ |
| အဆင့်/တာဝန် | - ညွှန်ကြားရေးမှူးချုပ် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန | နေရပ်လိပ်စာ | - အမှတ်(၃)၊ကံဘဲ့လမ်း၊ (၆)ရပ်ကွက်၊ရန်ကင်းမြို့နယ် ရန်ကုန်မြို့ |




**စာပေးစာယူပြုလုပ်ရန်ကိစ္စ**

၂၅။ စာပေးစာယူပြုလုပ်ရာတွင်မြန်မာဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း ၊ တဲလက်စ်ဖြင့်ပို့ခြင်း ၊ ဖက်စ်ဖြင့်ပို့ခြင်းတို့ကို အသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်း ဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်စာချုပ်ဝင်သို့ ချက်ချင်းအသိပေး အကြောင်းကြားထားရမည်-

(က) ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ရုံးအမှတ်(၃၃)၊နေပြည်တော်။
တယ်လီဖုန်းအမှတ် - ၀၆၇-၄၀၆၀၇၈
ဖက်စ်အမှတ် - ၀၆၇-၄၀၆၀၇၉

(ခ) ဦးကျော်မိုးနိုင်
၁၂/အလန(နိုင်)၀၀၁၀၁၆
Lighting Specialist Co.,Ltd
အမှတ်(၃)၊ ကံဘဲ့လမ်း၊ (၆)ရပ်ကွက်
ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

**စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့**

၂၆။ ဤသဘောတူစာချုပ်သည် (၁၁.၁၂.၂၀၁၄) ရက်နေ့မှစ၍ စတင်အကျိုးသက်ရောက်သည်။

၂၇။ ဤစာချုပ်ပါ စည်းကမ်းချက်များကို သဘောတူလက်ခံသဖြင့် ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ(၁၁) ရက်နေ့တွင် အောက်ပါအသိသက်သေများရှေ့၌ လက်မှတ်ရေးထိုးချုပ်ဆိုကြသည်-

| အငှါးချထားသူ(ကိုယ်စား) | | အငှါးချထားခြင်းခံရသူ(ကိုယ်စား) | |
|---|---|---|---|
| လက်မှတ် | - (signature) ၁၁-၁၂-၁၄ | လက်မှတ် | - (signature) 11/12/2014 |
| အမည် | - ဦးတင့်သွင် | အမည် | ဦးကျော်မိုးနိုင် |
| မှတ်ပုံတင်အမှတ် | - ၁၃/တယန(နိုင်)၀၀၃၃၆၇ | မှတ်ပုံတင်အမှတ် | - ၁၂/အလန(နိုင်)၀၀၁၀၁၆ |
| အဆင့်/တာဝန် | - ညွှန်ကြားရေးမှူးချုပ် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန | နေရပ်လိပ်စာ | - အမှတ်(၃)၊ကံဘဲ့လမ်း၊ (၆)ရပ်ကွက်၊ရန်ကင်းမြို့နယ် ရန်ကုန်မြို့ |

၄

| | | |
|---|---|---|
| အမှတ်စဉ် | - ---------------------- |
| ရောင်းချသည့်နေ့စွဲ | - ၁၂.၁၂.၂၀၁၄ |
| ဝယ်ယူသူအမည် | - Lighting Specialist Co,ltd |
| အဘအမည် | - |
| အမျိုးသားမှတ်ပုံတင်အမှတ် | - |
| နေရပ်လိပ်စာ | - |
| တံဆိပ်ခေါင်းတန်ဖိုး (စာဖြင့်) | - ---------------------- |
| ရောင်းချသူ၏လက်မှတ် | - ---------------------- |




ဤစာချုပ်သည် မြန်မာနိုင်ငံတံဆိပ်ခေါင်းဥပဒေဇယားတွင်ပါရှိသော အမှတ်စဉ် ( ၃၅ ) အရ အငှားသဘောတူ စာချုပ်စာတမ်းအမျိုးအစားဖြစ်၍တံဆိပ်ခေါင်းခွန် ကျပ် ၄၈၀၀၀၀၀/- (ကျပ် လေးဆယ့်ရှစ်သိန်း တိတိ) နှင့် ဒဏ်ငွေ - ထိုက်သင့်သော စာချုပ်စာတမ်းအမျိုးအစားဖြစ်ပါသည်။ မူရင်းစာချုပ်တွင် ထိုက်သင့်သော တံဆိပ်ခေါင်းခွန် ကျပ် ၄၈၀၀၀၀၀ /- (ကျပ် လေးဆယ့်ရှစ်သိန်း တိတိ)နှင့် ဒဏ်ငွေ - အား (၁၀.၁၂.၂၀၁၄) ရက်နေ့တွင် တံဆိပ်ခေါင်းခွန်ဌာနခွဲ ၌ ပေးဆောင်ပြီးကြောင်း တွေ့ရှိရပြီး မူရင်းစာချုပ်နှင့် တိုက်ဆိုင် စစ်ဆေးရာတွင် မှန်ကန်မှု ရှိကြောင်းစိစစ်တွေ့ရှိရပါသည်။

ယခုမူရင်းခွဲ (သို့) မူရင်းမိတ္တူအဖြစ်ပြုလုပ်သော စာချုပ်တွင်လည်း ထိုက်သင့်သည့် တံဆိပ်ခေါင်းခွန် ကျပ် ၁၀၀/- (ကျပ် တစ်ရာ တိတိ) အား (၁၂.၁၂.၂၀၁၄) ရက်နေ့တွင် ပေးဆောင်ပြီးဖြစ်သဖြင့် အထက်ပါ မူရင်းစာချုပ်၏ မူရင်းခွဲ (သို့) မူရင်းမိတ္တူဖြစ်ကြောင်း သက်သေခံပါသည်။

12.12.14

( [illegible] )
ဦးစီးအရာရှိ
[illegible] မြို့နယ်အခွန်ဦးစီးဌာနရုံး
[illegible](၅)မြို့နယ်



**အသိသက်သေများ**

| | | | |
|---|---|---|---|
| လက်မှတ် | - 11.12.14 | လက်မှတ် | - 11/12/14 |
| အမည် | ဦးကောင်းထွဋ်မှု | အမည် | - ဦးလှိုင်းဝင်ကို |
| မှတ်ပုံတင်အမှတ် | - KMDE-000589 | မှတ်ပုံတင်အမှတ် | - ၁၂/ပဇတ(နိုင်)၀၀၁၃၂၇ |
| ရာထူး | -ဒုတိယညွှန်ကြားရေးမှူးချုပ် | နေရပ်လိပ်စာ | - အမှတ်(၃)၊ကံဘဲ့လမ်း၊ (၆)ရပ်ကွက်၊ ရန်ကင်းမြို့နယ် ရန်ကုန်မြို့။ |
| ဌာန | - ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန | | |




# Site Plan

**Pool area – 350 sq-m**
**Spa area – 400 sq m**

TAI DESIGN



**Bird's-eye View**

TAI DESIGN




# Ground Floor Plan

Total Floor Area – 1530 sq-m
Lobby & Waiting Lounge – 185 sq-m
Gym – 200 sq-m
Meeting Room – 185 sq-m

TAI DESIGN




# First & Second Floor Plan

**Total Floor Area – 1690 sq-m**

TAI DESIGN







**Villa**

**Total Floor Area –53 sq-m**

**Delux Room**

**Total Floor Area –42 sq-m**

**Standard Room**

**Total Floor Area –30 sq-m**

TAI DESIGN




# Villas & Pool Area

**Pool area – 350 sq-m**
**Spa area – 400 sq m**

TAI DESIGN





## Front Elevation (view from Villas)



## Back Elevation



TAI DESIGN



# Perspective View of Gym and Meeting rooms Area

TAI DESIGN

LSC LIGHTING SPECIALIST CO LTD
3, Kanbe Road, Yankin Township
Yangon, Myanmar 11081
T +95 (0) 1 - 578930 / 577740
665068 / 657181
F +95 (0) 1 - 665345
E : myintzu@lscmyanmar.com

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ( ၈) ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်၍ ပြန်လည်တင်ပြခြင်း။

ရည်ညွှန်းချက်။ ။( ၁ ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈-၁၂-၂၀၁၅) ရက်စွဲပါ အမှတ် ရက-၄မ-၁၅၀၁/၂၀၁၅ (၉၅၉)

( ၂ ) မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ (၂၁-၁၂-၂၀၁၅) ရက်စွဲပါ အမှတ် မဗဘ/ ဘဏ်စိစစ်/ထွေ (၁၀၆၇/၂၀၁၅)

၁။ Lighting Specialist Co., Ltd သည် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီး ဌာန ပိုင် ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ကလောမြို့နယ်၊ ဦးပိုင်အမှတ်(၂၀)၊အကွက်အမှတ်(၄၄)၊ မြေအမှတ် ၈၄/A ၊ (၃) ရပ်ကွက်၊ ကျောက်တိုင်ရပ်ရှိ မြေ(၃.၇၈၅) ဧကနှင့် (၂.၈၅) ဧက ၊ စုစုပေါင်း မြေ (၆.၆၃၅) ဧက တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိကလောဟိုတယ်အား အဆင့်မြင့် ပြန်လည် မွမ်း မံခြင်းနှင့် ဟိုတယ်ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဟိုတယ်နှင့် ခရီးသွား လာရေး လုပ်ငန်း ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၎င်းအဆိုပြုချက်ကို မြန်မာနိုင်ငံ ဗဟိုဘဏ်သို့ ရည်ညွှန်းစာ (၁) ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်၍ ပူးတွဲပါ အတိုင်း ပြန်လည် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

လှိုင်ဝင်းကို
ဒါရိုက်တာ
**Lighting Specialist Co Ltd.**

# CONTRACT AGREEMENT

PARTY A : GALALUZ PTE LTD.
(SINGAPORE)

PARTY B : LIGHTING SPECIALIST CO., LTD.
(MYANMAR)

# CONTRACT TO SUPPLY FOR HOTEL'S MATERIALS & RELATED VEHICLES REQUIRED FOR HOTEL PROJECT IN KALAW

&

# CONTRACT NO. 21NO-HOTEL-GAL

THIS CONTRACT (R) IS ENTERED INTO AS OF NOVEMBER 20, 2015 IN SINGAPORE, BETWEEN

GALALUZ PTE. LTD., A COMPANY FORMED UNDER THE LAWS OF SINGAPORE, HAVING ITS REGISTERED ADDRESS AT NO 9 LOYANG WAY, SINGAPORE 541298 , REPRESENTED FOR THE PURPOSE OF THIS CONTRACT BY MS ANDREA KIN, GROUP FINANCIAL CONTROLLER OF GALALUZ PTE. LTD. (HEREINAFTER REFEREED TO AS THE SUPPLIER WHICH EXPRESSION SHALL, UNLESS REPUGNANT TO THE CONTEXT AND MEANING THEREOF INCLUDE HIS LEGAL REPRESENTATIVES, SUCCESSORS AND PERMITTED ASSIGNS) OF THE ONE PART

AND

LIGHTING SPECIALIST CO., LTD., A COMPANY FORMED UNDER THE LAWS OF MYANMAR, HAVING ITS REGISTERED OFFICE AT N0 3 KABE ROAD, YANGON, MYANMAR REPRESENTED FOR THE PURPOSE OF THIS CONTACT BY MS CHO CHO MAR, FINACIAL CONTROLLER OF LIGHING SPECIALIST CO.,LTD. (HEREINAFTER REFERRED TO AS THE PURCHASER WHICH EXPRESSION SHALL UNLESS REPUGNANT TO THE CONTEXT OR MEANING THERE OF INCLUDED HIS LEGAL REPRESENTATIVE, SUCCESSORS PERMITTED ASSIGNS) OF OTHER PART.

WHEREAS SUPPLIER IS DESIROUS OF SUPPLYING HOTEL OPERATING EQUIPMENT, HOE, M&E , EQUIPMENTS, ACCESSORIES AND OTHER RELATED VEHICLES AND RENOVATION WORK REQUIRED FOR HOTEL PROJECT, TOGETHER WITH TECHNICAL SERVICES FOR HOTEL PROJECT IN KALAW AS THE BUYER IS WILLING TO PURCHASE THE SAID AS DESCRIBED FULLY. NOW, THEREFORE, BOTH PARTIES AGREE TO ENTER THIS CONTRACT AND TO PERFORM THEIR RESPECTIVE PARTS AS FOLLOWS:

CLAUSE 1 DEFINITION

THE FOLLOWING WORDS SHALL HAVE THE ASSIGNED MEANING WHEREVER THEY APPEAR IN THIS CONTRACT:

GOODS MEANS ALL NECESSARY HOTEL OPERATING EQUIPTMENTS, AND OTHER RELATED VEHICLES AND IT RELATED EQUIPMENT NEEDED TO INSTALL FOR HOTEL FACILITIES ETC.

CONTRACT PRICE MEANS THE PURCHASE PRICE OF GOODS INCLUDING TECHNICAL SERVICES, HOTEL OPERATING EQUIPMENT, STRUCTURAL WORK AND SPARE PARTS AS MENTIONED IN CLAUS 3 OF THE CONTRACT.

TECHNICAL SERVICES MEANS ALL TECHNICAL SERVICES TO BE PROVIDED BY THE SUPPLIER TO SET UP HOTEL FACILITIES AND ITS DETAIL REQUIREMENTS.

"HOE" AND "M & E" MEANS HOTEL OPERATING EQUIPMENT AND MECHNICAL & ELECTRICAL WORK THE SUPPLIER AS MENTIONED IN THE CONTRACT APPENDIX, ALL OF THE EQUIPMENT WILL BE SUPPLIED WITH THE EQUIPMENT BY THE SUPPLIER.

CLAUSE 2 SUPPLIER'S CREDIT

THE SUPPLIER SHALL PROVIDE THE PURCHASER WITH BANK CREDIT FROM A FINANCIAL INSTITUTION IN SINGAPORE FOR THE PURCHASE OF GOODS AND SERVICES MENTIONED IN DETAILS FOR THE SUPPLY OF COMPLETE SET MACHINERY AND EQUIPMENTS REQUIRED FOR HOTEL PROJECT.

CLUSE 3 CONTRACT PRICE

THE CONTRACT PRICE FOR HOE, M&E , EQUIPMENTS, ACCESSORIES AND OTHER RELATED VEHICLES AND RENOVATION WORK REQUIRED FOR HOTEL PROJECT, REQUIREMENTS OF PURCHASED GOODS TOGETHER WITH TECHNICAL SERVICES AND SUPPLY OF EQUIPMENTS SHALL BE CIF YANGON US$ (11,500,000), IT SAYS CIF YANGON UNITED STATE DOLLARS ONE HUNDRED MILLION ONLY.

CLAUSE 4 TERMS OF PAYMENT AND PAYMENT SCHEDULE

THE PURCHASER SHALL AFFECT PAYMENTS TO THE SUPPLIER AS PER THE PAYMENT SCHEDULE LISTED BELOW:

| Year | Principal | Interest | Principal & interest | Balance Of Principal |
|---|---|---|---|---|
| 6th | 1,000,000.00 | 575,000.00 | 1,575,000 | 10,500,000.00 |
| 7th | 1,000,000.00 | 575,000.00 | 1,575,000 | 9,500,000.00 |
| 8th | 1,000,000.00 | 575,000.00 | 1,575,000 | 8,500,000.00 |
| 9th | 1,000,000.00 | 575,000.00 | 1,575,000 | 7,500,000.00 |
| 10th | 1,000,000.00 | 575,000.00 | 1,575,000 | 6,500,000.00 |
| 11th | 1,000,000.00 | 575,000.00 | 1,575,000 | 5,500,000.00 |
| 12th | 1,000,000.00 | 575,000.00 | 1,575,000 | 4,500,000.00 |
| 13th | 1,000,000.00 | 575,000.00 | 1,575,000 | 3,500,000.00 |
| 14th | 1,000,000.00 | 575,000.00 | 1,575,000 | 2,500,000.00 |
| 15th | 1,000,000.00 | 575,000.00 | 1,575,000 | 1,500,000.00 |
| 16th | 1,000,000.00 | 575,000.00 | 1,575,000 | 500,000.00 |
| 17th | 500,000.00 | 575,000.00 | 1,075,000 | - |
| | | | | |
| | 11,500,000.00 | 6,900,000 | **18,400,000** | |

IT SHALL BE ALLOWED TO REMIT MORE PRINCIPAL AMOUNTS ON EACH PAYMENT TIMES OF THE ABOVE MENTION AND CALCULATED THE INTEREST AMOUNT ACCORDING TO THE PRINCIPAL PAYMENT AMOUNT IS AFFECTED.

CLAUSE 5 INTEREST PAYMENT

THE PURCHASER AGREES TO PAY 5% PERCENT PER ANNUM INTEREST BEING A SIMPLE INTEREST ON EVERY INSTALLMENTS MAKE TO THE SUPPLIER AS MENTIONED ABOVE.

CLAUSE 6 IMPORT OF THE GOODS

THE SUPPLIER AGREES TO SHIP THE GOODS FROM SINGAPORE, MALAYSIA, CHINA, INDIA, THAILAND, KOREA, FRANCE, USA AND EUROPE TO YANGON PORT IN MYANMAR AS PER DELIVERY SCHEDULE AS DISCUSSED AND NEGOTIATED.

CLAUSE 7 SUPPLIER'S WARRANTY ON GOODS DELIVERED

THE SUPPLIER AGREES TO PROVIDE AN IRREVOCABLE WARRANTY FOR ALL HOE, M&E , EQUIPMENTS, ACCESSORIES AND OTHER RELATED VEHICLES AND RENOVATION WORK REQUIRED FOR HOTEL PROJECT, REQUIREMENTS OF PURCHASED GOODS TOGETHER WITH TECHNICAL SERVICES AND SUPPLY OF EQUIPMENTS AS WELL AS HOTEL'S FACILITIES AND ITS DETAIL REQUIREMENTS.

THE WARRANTY PERIOD SHALL COMMENCE FROM THE DATE OF THE ISSUING OF THE FINAL ACCEPTANCE TEST BY THE PURCHASER AND REMAIN VALID TILL TWELVE MONTHS THEREOF.

CLAUSE 8 DOCUMENTATION

THE SUPPLIER AGREES TO SUPPLY ALL DETAILED DRAWING FOR PROPER HOTEL RENOVATION MAINTENANCE AND OPERATION OF THE HOTEL OTHER RELEVANT EQUIPMENT INCLUDING THE COMPLETE DETAILED TECHNICAL SPECIFICATIONS AND CATALOGUES OF VARIOUS EQUIPMENTS AND LAYOUT DRAWING FOR MACHINERY USED EQUIPMENT MORE SPECIFICALLY LISTED.

CLAUSE 9 SUPPLY OF EQUIPMENT AND MACHINERY

THE SUPPLIER AGREES TO SUPPLY TO THE PURCHASER OF HOTEL OPERATING EQUIPEMENTS, M & E EQUIPTMENTS , INTERIOR FIT OUT & FF&E IN DETAIL AS FOLLOWS :-

10.1) CONSTRUCTION BUILIDNG WORKS
10.2) STRUCTURAL & PILING WORKS
10.3) ARCHITECTURAL WORKS
10.4) MEP WORKS (MECHANICAL, ELECTRICAL, PLUMBING WORKS)
10.5) INTERIOR FIT OUT & FURNITURE, FITTTING & EQUIPMENTS
10.6) EXTERNAL WORKS, LIGHTING & LANDSCAPTING
10.7) HOTEL OPERATING EQUIPMENTS
10.8) IT EQUIPMENT & HOTEL IT SOFTWARES & HARDWARES
10.9) RELEVANT VEHICLES

CLAUSE 10 PRODUCTION STANDARDS TO BE GUARANTEED BY THE SUPPLIER

THE SUPPLIER AGREES TO ENSURE PRODUCTION STANDARD TO BE GUARANTEED AS AGREES BETWEEN PARTIES AND SHALL REMEDY AT HIS OWN EXPENSE FOR ANY DEFECT WHICH AFFECTS THE GUARANTEED HOE, M&E , EQUIPMENTS, ACCESSORIES AND OTHER RELATED VEHICLES AND RENOVATION WORK REQUIRED FOR HOTEL PROJECT, REQUIREMENTS OF PURCHASED GOODS TOGETHER WITH TECHNICAL SERVICES AND SUPPLY OF

EQUIPMENTS AND ITS DETAIL REQUIREMENTS ACCORDING TO THE STARNDARD SET BY THE HOTEL.

THE SUPPLIER'S TECHNICIANS AND ENGINEERS AFTER TAKING FULL CONSIDERATION OF THE PURCHASER'S REQUIREMENTS, SHALL BE CONFIRMED THE PRODUCTION STANDARDS TO BE GUARNTEED BY THE SUPPLIER AS AGREED BY THE PURCHASER.

THE SUPPLIER'S TECHNICIANS AND ENGINEERS SHALL ATTACH NOTES, DIAGRAMS AND DRAWINGS CERTIFYING THE PRODUCTION STANDARDS WHICH SHALL BE GUARANTEED BY THE SUPPLIER.

CLAUSE 11 COMMISSIONG PERIOD

AFTER COMPLETION OF INSPECTION, INSTALLATION AND ERECTION, ALL UNITS SHALL BE TESTED AND THE PERIOD OF TIME NEEDED FOR SUCH TESTING SHALL BE TREATED AS COMMISSIONING PERIOD.

CLAUSE 12 DELIVERIES

THE SHIPMENT OF GOODS WILL BE ARRANGED BY THE SUPPLIER FROM SINGAPORE, MALAYSIA, CHINA, INDIA, THAILAND, KOREA, FRANCE, USA AND EUROPE RESPECTIVELY AND THE SHIPMENT OF GOODS SHALL COMMENCE 120 DAYS AFTER THE AGREEMENT BY THE PURCHASER. THE PORT OF DESTINATION OF GOODS SHALL BE YANGON (YANGON PORT), MYANMAR.

THE SUPPLIER SHALL INFORM THE PURCHASER DETAILS OF EACH SHIPMENT BY FAX WITHIN (7) DAYS AFTER SHIPMENT AND FORWARD ALL NECESSARY INVOICE AD SHIPPING DOCUMENTS TO THE PURCHASER.

IF THE SUPPLIER FAILS TO DELIVER THE GOODS AT THE APPOINTED TIME DUE TO THE DELAY OR NEGLIGENCE AS PER DELIVERY SCHEDULE, THE SUPPLIER SHALL COMPENSATE ON EACH DELAY WEEK FOR SUCH DELAY.

CLAUSE 13 INSPECTION

ALL AGREED GOODS SHALL BE IN COMPLIANCE WITH TECNOLOGY STANDARD STATED IN THE CONTRACT. BEFORE THE AGREED GOODS LEAVE THE MANUFACTURING FACTORY BELONGING TO THE SUPPLIER, THE PERSON WHO IS APPOINTED BY THE PURCHASER SHALL INSPECT THE GOODS AND ISSUE INSPECTION CERTIFICATE AFTER THE GOODS INSPECTED ARE ACCORDING TO THE TECHNOLOGICAL STANDARDS MENTIONED IN THIS CONTRACT.

THE PURCHASER'S INSPECTOR SHALL ARRIVE AT THE FACTORY TO INSPECT THE GOODS WITHIN (7) DAYS ON RECEIPT OF THE NOTICE INFORMING THEM THAT THE SUPPLIER HAS MADE THE GOODS READY FOR INSPECTION. IN CASE THE PURCHASER'S INSPECTOR CANNOT EFFECT THE INSPECTION WITHIN THE TIME STIPULATED IN THE NOTICE OR CANNOT ISSUE THE INSPECTION CERTIFICATE WITHIN (7) DAYS AFTER THE INSPECTION, THE SUPPLIER HAS THE RIGHT TO INSPECT THE GOODS BY THEMSELVES AND ISSUE THE INSPECTION CERTIFICATE, AND THE PURCHASER SHOULD ACCEPT IT WITHOUT ANY CONDITION.

THE SUPPLIER SHALL SEND THE INVITATION LETTER (7) DAYS BEFORE THE ISSUE OF THE SAID NOTICE TO THE PURCHASER SO AS TO ENABLE HIM TO SEND HIS INSPECTION TO INSPECT THE GOODS AT THE SUPPLIER'S MANUFACTURING FACTORY.

CLAUSE 14 PACKING

ON DELIVERY OF THE GOODS, THE SUPPLIER SHALL HANDLE THE GOODS IN GOOD PACKING CONDITION TO PREVENT THE GOODS FROM LOSS AND DAMAGE DURING THE TRANSSHIPMENT FROM LOADING PORT TO YANGON AND TO ARRIVE AT THE PORT OF DISCHARGE SAFELY AS PER DELIVERY SCHEDULE.
PACKING LIST SHALL BE ATTACHED TO EACH LOT OF SHIPMENT. THE SHIPPING MARKS SHALL BE OPTIONED BY THE PURCHASER IN WRITING PRIOR TO SHIPMENT.

CLAUSE 15 INSURANCE
THE PURCHASER SHALL MAINTAIN INSURANCE FOR GOODS DELIVERED BY THE SUPPLIER DUTING TRANSPORTATION FROM PORT OF YANGON TO PURCHASER'S WORK SITE.

THE SUPPLIER AGREES TO SEND ALL COMMERCIAL INVOICE AND PACKING LIST TO THE PURCHASER IN TIME TO ENABLE TO THE PURCHASER TO ARRANGE INSURANCE OF GOODS DURING SUCH TRANSPORTATION.

CLAUSE 16 STANDARD & QUALITY
ALL GOODS SUPPLIED BY THE SUPPLIER SHALL CONFORM TO THE CORRECT CHINA MATERIALS AND TESTING STANDARDS AND THE SUPPLIER AGREES TO GUARANTEE THAT THE GOODS DELIVERED TO BE IN CONFORMITY WITH REVAILING INTERNATIONAL STANDARDS AND MYANMAR DCA STANDARDS.

CLAUSE 17 PAYMENT DEFAULT
THE PURCHASER SHALL PROMPTLY PAY THE AGREE PRICE AS PER PAYMENT TERMS MENTIONED ABOVE AND DELAY IN SUCH PAYMENT SHALL BE AVOIDED BY THE PURCHASER. SHOULD THE PURCHASER BE UNABLE TO EFFECT FURTHER PAYMENTS TO THE SUPPLIER WITHIN THE TIME EXTENSION GIVEN BY THE SUPPLIER, THE CONTRACTED GOODS ARE TO BE NEGOTIATED TO SETTLE THE REMAINING OUTSTANDING PAYMNET.

CLAUSE 18 GOVERNING LAWS
THE CONTRACT SHALL BE CONSTRUED, GOVERNED BY AND INTERPRETED IN ACCORDANCE WITH THE REPUBLIC OF UNION OF MYANMAR FAILING WHICH INTERNATIONAL LAWS, CONVENTION AND PRACTICE SHALL APPLY.

CLAUSE 19 FORCE MAJEURE
NEITHER PARTY SHALL BE RESPONSIBLE FOR DELAY DAMAGE OR LOSSES CAUSED BY FORCE MAJEURE. THE TERM FORCE MAJEURE SHALL MEAN ACTUS OF GOD, LOCKOUTS, INDUSTRIAL DISTURBANCE, ACTS OF PUBLIC ENEMY, WAR BLOCKADES, DISTURBANCES, RIOTS, EPIDEMIC, CIVIL DISTURBANCES, EXPLOSION, FIRES, FLOODS EARTHQUAKE, STORMS, LIGHTING AND OTHER CAUSES SIMILAR TO THE KND HEREIN ENUMERATED WHICH ARE NOT WITHIN THE CONTROL OF EIGHER PARTY AND WHICH BY THE EXERCISE OF THE CARE AND DILIGENCE OF EITHER PARTY IS UNABLE TO OVERCOME.
IF EITHER PARTY IS TEMPORARILY RENDERED UNABLE WHOLLY OR IN PARTY BY FORCE MAJEURE TO PERFORM ITS OR HIS DUTIES OR ACCEPT PERFORMANCE BY THE OTHER PARTY UNDER THIS CONTRACT. IT IS AGREED THAT ON SUCH PARTY GIVING NOTICE WITH FULL PARTICULARL'S IN WRITING OF SUCH FORCE MAJEURE IN THE OTHER PARTY WITHIN 14 DAYS AFTER THE OCCURRENCE OF THE CAUSE RELIED ON MAJEURE SHALL WITH THE APPROVAL OF THE OTHER PARTY, BE SUSPENDED DURING THE CONTINUANCE OF ANY INABILITY SO CAUSED, BUT FOR NO LONGER PERIOD, AND SUCH CAUSE SHALL AS FAR AS POSSIBLE BE REMOVED ALL RESONABLE DESPATCH.

CLAUSE 20 ARBITRATION

ALL DISPUTES ARISING UNDER THIS CONTRACT SHALL BE SETTLED BY THE PARTIES FAILING WHICH THEY SHALL BE DECIDED BY ARBITRATION. THE ARBITRATION PROCEEDINGS SHALL BE IN ACCORDANCE WITH MYANMAR ARBITRATION ACT 1944 AND THE VENUE OF ARBITRATION SHALL BE IN YANGON, MYANMAR.

IN THE EVENT MYANMAR BECOMES A PARTY TO ANY INTERNATIONAL ARBITRATION FOR DISPUTE SETTELEMENT THIS RIGHT TO REFERE TO SUCH INTERNATIONAL ARBITRATION SHALL BE GIVEN AUTOMATICALLY TO THE SUPPLIER.

CLAUSE 21 LANGUAGE OF THE CONTRACT

ENGLISH LANGUAGE IS THE MAIN LANGUAGE OF THIS CONTRACT. THERE SHALL BE TWO ORIGINAL COPIES FOR EACH PARTY HOLDING ONE.

CLAUSE 22 VALIDITY OF THE CONTRACT

THE CONTRACT SHALL COME INTO FORCE FROM THE DATE OF SIGNING BY PARTIES.

THIS CONTRACT SHALL BECOME NULL AND VOID IF THE SUPPLIER FAILS TO PROVIDE THE COMPLETE LIST OF THE ITEMS AS STIPULATED IN THE DELIVERY ORDER.

THE ITEMS TO BE SUPPLIED BY THE SUPPLIER SHALL MEET THE REQUIREMENT FOR THE PURCHASER, FAILING. WHICH THE PURCHASER RESERVES THE RIGHT TO TREAT THIS CONTRACT TO BE NULL VOID.

IN WITNESS WHEREOF THE SAID PARTIES HERETO HAVE HEREUNDER SET THEIR RESPECTIVE HANDS AND AFFIXED THEIR SEALS THE DAY, MONTH AND YEAR FIRST ABOVE WRITTEN.

SIGNED, SEALED AND DELIVERED BY FOR AND ON BEHALF OF SUPPLIER **GALALUZ PTE., LTD.**

MS. ANDEREA KIN
GROUP FINANCIAL CONTROLLER
GALALUZ PTE., LTD.

IN THE PRESENCE OF - DAW ................................ (FOR ON BEHALF OF)

SIGNED, SEALED AND DELIVERED BY FOR AND ON BEHALF OF BUYER **LIGHTING SPECIALIST CO., LTD.**

FIANNCIAL CONTROLLER
LIGHTING SPECIALISTCO., LTD.

IN THE PRESENCE OF - DAW .......................... (FOR ON BRHALF OF)



NAYPYITAW SIBIN BANK

ZABUTHIRI

Page ( 1 )

Account Number 0020103100003399(MMK)

1 > LIGHTING SPECIALIST CO.LTD, Reg No.166/2004-2005

2 > U KYAW MOE NAING, NRC No.12/AhLaNa(N)001016

3 > Daw THEIN THEIN WAI, NRC No.12/LaMaNa(N)114006

NO(3),KABARAYE ROAD,YANKIN,YANGON(EAST),YANGON,

| Sr. No. | Date | Cheque No | T/T | Debit Amount | Credit Amount | Balance |
|---|---|---|---|---|---|---|
| | | Balance B/F | | | | 31,125,940.00 |
| 1 | 02/10/2014 | BA0014372 | CHW | 30,000,000.00 | | 1,125,940.00 |
| 2 | 07/10/2014 | | CLD | | 334,603,000.00 | 335,728,940.00 |
| 3 | 07/10/2014 | BA0014373 | CHW | 334,603,000.00 | | 1,125,940.00 |
| 4 | 20/10/2014 | | TRD | | 198,254,000.00 | 199,379,940.00 |
| 5 | 24/10/2014 | BA0014374 | CHW | 30,000,000.00 | | 169,379,940.00 |
| 6 | 31/10/2014 | BA0014375 | CHW | 100,000,000.00 | | 69,379,940.00 |
| 7 | 31/10/2014 | | CLD | | 173,186,580.00 | 242,566,520.00 |
| 8 | 04/11/2014 | | TRD | | 57,312,360.00 | 299,878,880.00 |
| 9 | 13/11/2014 | BA0030051 | CHW | 85,000,000.00 | | 214,878,880.00 |
| 10 | 21/11/2014 | BA0030052 | CHW | 70,000,000.00 | | 144,878,880.00 |
| 11 | 28/11/2014 | | CLD | | 260,545,740.00 | 405,424,620.00 |
| 12 | 28/11/2014 | BA0030053 | TRW | 30,000,000.00 | | 375,424,620.00 |
| 13 | 01/12/2014 | BA0030054 | CLW | 350,000,000.00 | | 25,424,620.00 |
| 14 | 23/12/2014 | | CLD | | 549,460,520.00 | 574,885,140.00 |
| 15 | 23/12/2014 | BA0030055 | CHW | 549,460,520.00 | | 25,424,620.00 |
| 16 | 06/01/2015 | | CLD | | 1,313,391,590.00 | 1,338,816,210.00 |

06/01/2015 03:09:48 PM

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| 06/01/2015 | | Balance | | | | | | 1,338,816,210.00 |
| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance | | |
| 31,125,940.00 | + | 2,886,753,790.00 | - | 1,579,063,520.00 | = | 1,338,816,210.00 | | |

No. of Withdrawals = 9

No. of Deposit = 7

T/T = Type of Transaction

CHD = Cash Deposit

TRD = Transfer Deposit

CLD = Clearing Deposit

INT = Interest

CHW = Cash Withdrawal

TRW = Transfer Withdrawal

CLW = Clearing Withdrawal

OPN = Opening

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correct.

MANAGER

ACCOUNTS DEPARTMENT

